بسم الله الرحمن الرحيم

## မာတိကာ

## မာတိကာ





## နေလိုလင်း၊ပန်းလိုသင်းတဲ့ ရင်တွင်းက ချစ်နဗီ ﷺ

ရဗီအွလ်အောက်ဝလ် လ နီးနီးလေလေ ချစ်နဗီ ﷺ ကို သတိရ တမ်းတခြင်း၊ လွမ်းဆွတ်ခြင်းတွေနမ်းလို့ ပွင့်လန်းမယ့် အချစ်ပန်းငုံဖူးတွေဟာ လည်း ရင်ခွင်မှာ ပွင့်အာ လန်းဆန်းလေလေပါ။

ဒီအချစ်တွေကို တစ်နည်းနည်းနဲ့ သက်သေပြဖို့ ဆုံးဖြတ်ပြီး ချစ်နဗီရဲ့ အကြောင်းလေးတွေကို စုစည်းတင်းပြလိုက်ရပါတယ်။

ဒီတင်ပြချက်လေးတွေကတော့ Five minute success journey (ငါး မိနစ်အတွင်း အောင်မြင်ခြင်းခရီး)ဆိုတဲ့ ခေါင်းစဉ်နဲ့ ဟစ်ဂျ်ရီ(၁၄၄၄)ခု ရဗီ အွလ် အောက်ဝလ်လမြတ်မှာ တင်ပြခဲ့တဲ့ စီရသ်ဆိုင်ရာ မှတ်စုလေးတွေပဲ ဖြစ် ပါတယ်။ ဒီမှတ်စုလေးတွေဟာ တစ်ရက်တစ်ခုစီ ရေးသားခဲ့တာမို့ အကြောင်း အရာဆက်စပ်မှုတော့ ရှိမှာမဟုတ်ပါဘူး။ အစမှအဆုံး ရေးသား ဟန်ကလည်း စကားပြော၊ စကားပြေ တပြေးညီ ရှိမှာ မဟုတ်ပါဘူး။

နဗီရဲ့အပေါ် ထားရှိတဲ့ အချစ်စွမ်းအားနဲ့ ခံစားချက်ပါရမီကိုသာ အရင်း ခံထားပြီး နဗီအချစ်ကူးစက်နိုင်ဖို့ ရည်သန် ရေးသားခဲ့တာပါ။

နဗီချစ်သူအချင်းချင်း နဗီကိုချစ်ခြင်းသင်းရနံ့တွေ လောကတစ်ခွင်ဆွတ်ဖြန်းကြပြီး ကြိုင်သင်းအောင် ကြိုးပမ်းစေချင်ပါတယ်။

စာရေးသူရဲ့ နှလုံးသားရင်ပြင်မှာ နဗီရဲ့ အချစ်ပန်းခင်း စိုက်ပျိုးပေးလိုက်တဲ့ အရှင်မြတ်ကို ကိုယ်နှုတ်နှလုံးဤသုံးပါးလုံးနဲ့ ကျေးဇူးထောပနာ ပြုအပ်ပါတယ်။

နဗီ့အချစ်ပန်းများပွင့်လန်းလာစေရန် ကြိုးပမ်းပေးခဲ့တဲ့ ပန်းပျိုးလက်များ ဖြစ်ကြသော မိခင်မွန် ချမ်းမြေ့ကြည်သာ (သာစည်)ﷺနဲ့ ဆရာအပေါင်းကို ဤစာအုပ်ငယ်နဲ့ ဂုဏ်ပြုအပ်ပါတယ်။

ပြန့်ကျဲနေတဲ့ ဆောင်းပါးတွေကို တစ်စုတည်းဖြစ်အောင် ကြိုးပမ်းဆောင်ရွက်ပေးတဲ့ ချစ်တပည့် မုဟမ္မဒ် ကအဗ်ဟာစံ၊ နဗီရဲ့ချစ်စိတ်အပြည့်နဲ့ စာအုပ်အတွင်းအပြင်အဆင်များကို စိတ်ရှည်လက်ရှည်ကြိုးပမ်းပေးတဲ့ ချစ်မိတ်ဆွေ မော်လာနာ ဖိုင်ဆွလ် (အလ်ကောင်ဆရီ-ဝါးခယ်မ)၊ မျက်နှာဖုံးဒီဇိုင်း လှလှလေးဆွဲပေးတဲ့ ချစ်မိတ်ဆွေ ဟာဇရသ်မော်လာနာ မုဟမ္မဒ် (အလ်ကောင်ဆရီ)တို့နဲ့ စာဖတ်ပရိသတ်အပေါင်းကို အရှင်မြတ် နှစ်ဘဝမှာ ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

**ပန်းလိုကြွေလည်း ဝေတုန်းအတိုင်း သင်းနေတယ်**
**ကြယ်လိုကြွေလည်း နေတုန်းအတိုင်း လင်းနေတယ်**
**ပန်းလိုလည်းသင်း ကြယ်လိုလင်းတဲ့ ချစ်နှမကို**
**ရင်တွင်း ထာဝရ ထားရှိပါမယ်။**

**မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဗ္ဗလ်ဟာစနီ၊မဇ္ဇာဟော့ရီ)**
**ဟာစ်ဂျ်ရီ (၁၄၄၅)ခု၊ ဆွဖရ်လ(၂၇)ရက်**
**13/9/2023(Wednesday)**

# ကမ္ဘာ ဘယ်တော့ပျက်မလဲ...တဲ့။

လူတစ်ဦးက တမန်တော်မြတ်(ﷺ)ကို မေးခဲ့ဖူးတယ်။ ကိုယ်တော်က...

မင်းအဲ့အတွက် ဘာတွေပြင်ဆင်ပြီးပြီလဲ...။လို့ပြန်မေးတော့ သူကဖြေတယ်။ ဘာမှမယ်မယ်ရရမရှိသေးပါဘူး။ ဒါပေမယ့် ကျွန်တော် အလ္လာဟ်အရှင်မြတ်နဲ့ ရစူလ်တမန်တော်မြတ်ကို ချစ်တယ်...တဲ့။ ကိုယ်တော်က...

**မင်းချစ်တဲ့သူနဲ့အတူရှိရမယ်။** လို့ဖြေကြားတော်မူခဲ့တယ်။

(ဗိုခါရီကျမ်း၊ ဟဒီးဆ်အမှတ် ၃၆၈၈၊ ဆင့်ပြန်သူ အနတ်စ်ﷺ)

Apocalypse (ကမ္ဘာပျက်ကိန်း)ဆိုတာ ကောင်းကင်ကျမ်းတိုင်းမှာ ဖော်ပြထားတဲ့ လူသားတိုင်းမလွဲမသွေကြုံတွေ့ရမယ့် အိပ်မက်ဆိုးကြီးတစ်ခုပေါ့။ ဒီအခြေအနေကို ရင်ဆိုင်ကျော်ဖြတ်တဲ့အခါမှာ သင်ချစ်တဲ့သူရဲ့လက်ကို တွဲထားခွင့်ရပါမယ်။ သင်တွဲမဲ့လက်ဟာ ခိုင်မြဲပါရဲ့လား...။ ဘေးဒုက္ခတွေ ရင်ဆိုင်ရချိန်မှာ သင်ချစ်တဲ့သူဟာ သင်နှင့်အတူရှိနေနိုင်ပါရဲ့လား...။ ကိုယ်စီကြိုတင်စဉ်းစားထားသင့်ပါတယ်။

ကျွန်တော်ရဲ့ချစ်မိတ်ဆွေ မုဖ်သီမုဟမ္မဒ်အာဆွင်း(နဒ်ဝီ)ကတော့ ဒီမတည်မြဲတဲ့ လောကီကစလို့ ဂျန္နသ်ထိတိုင်အောင် စခန်းတိုင်းမှာ အတူရှိမဲ့ ခိုင်မြဲတဲ့လက်တစ်စုံကို ကိုင်စွဲဖို့ ဆုံးဖြတ်ထားကြောင်း ဒီစာအုပ်လေးနဲ့ သက်သေထူလိုက်ပါတယ်။ **နေလိုလင်း၊ ပန်းလိုသင်းတဲ့ ရင်တွင်းက ချစ်နဗီ** တဲ့။ ခေါင်းစဉ်လေးကစပြီး တစ်အုပ်လုံး အစ၊ အဆုံး ဖတ်ပြီးသွားတဲ့အခါ ကိုယ်တော့ရဲ့အချစ်တွေဟာ နှလုံးသားထဲမှာ နေရာယူကိန်းအောင်းသွားမယ်ဆိုတာ ယုံကြည်လျှက်...

**မော်လဝီမုဟမ္မဒ်(အလ်ကောင်ဆရီ)**



## ရဗီအွလ် အောက်ဝလ် (၁)ရက်နေ့

၁ • ရဗီအွလ် အောက်ဝလ်လမြတ်ရဲ့ အရေးပါတဲ့ ပေးစာ

☪ရဗီအွလ်အောက်ဝလ်လမြတ်ဟာ အစ္စလာမ့်ပြက္ခဒိန်ရဲ့ တတိယ မြောက် လဖြစ်ပါတယ်။

အရဗီစာပေမှာ ربيع الأول ဆိုတာ ပထမအကြိမ် ရွက်ဟောင်းများ ကြွေပြီး ရွက်သစ်ဝေတဲ့ကာလ(သို့) "နွေဦးပေါက်ရာသီမှာ ကျလေ့ရှိတဲ့ မိုးဖွဲလေးများ"လို့ အဓိပ္ပါယ်ရပါတယ်။

☪ဒီလမြတ်မှာ ကျွန်တော်တို့ အသက်ထက် ပိုမိုချစ်ရတဲ့ နဗီတမန် တော်မြတ် ﷺ ဖွားမြင်ခဲ့ပါတယ်။

🕋 ကိုယ်တော်မြတ်ﷺရဲ့ ဘဝမှာ အရေးပါလှတဲ့ "ဟိဂျ်ရသ်" (မက္ကာရွှေ မြို့တော်ကို စွန့်ပြီး မဒီနာရွှေမြို့တော်ကို ပြောင်းရွှေ့ခဲ့ တဲ့ခရီးစဉ် ဟာလည်း ဒီလမြတ်မှာပဲ ဖြစ်ခဲ့တာပါ။

☪ ကိုယ်တော်မြတ် ﷺ ကွယ်လွန်တော်မူတာလည်း ဒီလမြတ်မှာပဲ ဖြစ်ပါ တယ်။

ဒီလမြတ်ဟာ ခြောက်သွေ့နေတဲ့ ပတ်ဝန်းကျင်ကို စိုပြေစေပါတယ်။

 အဖူးအပွင့်တို့ ကင်းနေရတဲ့ သစ်ပင်တွေဟာ ပွင့်ဖူးဆင်တွေနဲ့ ထူး တင့်လာသလိုပါပဲ...

 ခရစ်နှစ်ခြောက်ရာစုနှစ်မှာ နဗီတမန်တော်တွေ စိုက်ပျိုးခဲ့တဲ့ သာသနာ့ သစ်ပင်ကြီးဟာ ခြောက်သွေ့ခဲ့ရပါတယ်။

လူသားထုတစ်ရပ်လုံးဟာလည်း အီမာန်ရဲ့ အလင်းတရားတွေနဲ့ လက်မဲ့ ဖြစ်နေရပါတယ်။

ဟေဒါယသ် လမ်းမှန်နဲ့ ဝေးနေရတဲ့ လူသားထုတစ်ရပ်လုံးကို ချစ်နဗီ ﴿ﷺ﴾ တရားလမ်းမှန်ဆီ တင်ဆောင်ပေးခဲ့ပါတယ်။

 အမိုက်အမှောင်ရဲ့ ရွက်ခြောက်တွေကို ခြွေချခဲ့ပြီး အလင်းတရားရဲ့ ရွက် သစ်တွေကို ဒီလမြတ်မျိုးကနေ စတင်ပြီး ဖူးတင့်ဝေဆာစေခဲ့ပါတယ်။

ولد الهدى فالكائنات ضياء          وفم الزمان تبسم وثناء

 “တရားလမ်းမှန် မွေးဖွားပြန်တော့ တစ်ခွင်ကမ္ဘာ လင်းဖျာခဲ့ရ။
လောကနတ်ဖျား ချီးကျူးစကား ပြုံးရိပ်များလည်း ခိုတွဲလာခဲ့ရ။”

ဒါကြောင့် ဒီလမြတ်ကနေ စတင်ပြီး ချစ်နဗီ﴿ﷺ﴾ရဲ့ ဘဝကို အထူးလေ့လာသင့်ပါတယ်။

ချစ်နဗီ﴿ﷺ﴾မိန့်မှာချက်တွေအတိုင်း ဘဝတစ်ခုကို ထုဆစ်ဖို့ နဗီ ကြီးရဲ့ စီရည်တွေကို လေ့လာဖတ်ရှုဖို့ လိုအပ်ပါတယ်။

 ဒါဟာ ရဗီအွလ်အောက်လမြတ်ရဲ့ အရေးပါတဲ့ ပေးစာတစ်ခုပါပဲ။



ရဗီအွလ် အောက်ဝလ်
(၂)ရက်နေ့

၂ • မမွေးရက်သော ကိုယ်တော်နှင့် မေ့တတ်သော ဒီအွမ္မသ်

 ကျွန်တော်တို့ကို ပညာရှင်တွေက ကိုယ်တော်မြတ်(ﷺ)ရဲ့ အတ္ထုပ္ပတ္တိကို အမြဲလေ့လာဖို့၊ ကိုယ်တော့်အကြောင်းကို သိရှိဖို့ မှာတမ်းကြပါ တယ်။

 ကိုယ်တော့်အကြောင်း သိဖို့၊ လေ့လာဖို့ ဘာကြောင့်လိုအပ်တာလဲ...?

ကျွန်တော်တို့ ဖတ်ထားတဲ့ ကလိမဟ်တော်ရဲ့ တစ်ဝက်က مُحَمَّدٌ رَّسُوْلُ اللهِ ဖြစ်နေလို့ပါ။

 ကိုယ်တော့်အကြောင်း သိဖို့၊ လေ့လာဖို့ ဘာကြောင့်လိုအပ်တာလဲ...?
အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်မှာ

 “ အသင်တို့အတွက် အလ္လာဟ့်ရစူလ်ရဲ့ ဘဝမှာ အကောင်းဆုံးသော စံနမူတွေ ရှိနေပါတယ်။” လို့ မိန့်ထားလို့ပါ။

 “အသင့်တို့ထံ အသင်တို့ထဲက ရစူလ်တမန်တော်တစ်ပါး ကြွမြန်းခဲ့ပြီ။ အသင်တို့ ဒုက္ခဖြစ်မှာကို မခံစားနိုင်တဲ့ ရစူလ်၊ အသင်တို့တရားလမ်းမှန်ရစေဖို့ ဆန္ဒအာသီသ ပြင်းပြတော်မူသော ရစူလ်၊ မုအ်မင်န်တို့ပေါ် အထူး ကရုဏာထားတော်မူသောရစူလ်(ဖြစ်ပေတယ်။)” လို့ ကြေညာထားလို့ပါ။

“ထိုသူတို့ အိမာန်မယူခြင်းကြောင့် အသင်မိမိကိုယ်ကို လုပ်ကြံလိုက်တော့ မှာလား” လို့အရှင်မြတ်ဘက်က မေးခွန်းထုတ်ခြင်းခံရတဲ့ တမန်တော် ဖြစ်နေ လို့ပါ။

“အသင်တမန်တော်ဟာ ကြီးကျယ်ခမ်းနားဆုံးသော စာရိတ္တအလှကို ပိုင်ဆိုင်ထားသူဖြစ်ပါတယ်။”လို့ အရှင့်ဘက်က ဘွဲ့ထူးချီးမြှင့်ခြင်း ခံထားရလို့ပါ။

ကိုယ်တော့်အကြောင်း သိဖို့၊ လေ့လာဖို့ ဘာကြောင့်လိုအပ်တာလဲ…?

⦿ကျွန်တော်တို့ကို မိအ်ရားဂျ်မှာလည်း မမေ့ခဲ့၊ ကွယ်လွန်ချိန်မှာလည်း မမေ့ခဲ့၊ ဘဝတစ်ခုလုံးလည်း ဒီအွမ္မသ်အတွက် ပေးဆပ်ခဲ့လို့ပါ။ ကေယာမသ်နေ့မှာ ကျွန်တော်တို့ကို….

⦿ကောင်ဆရ်ရေကန်မှာလည်း မမေ့၊ ဂျန္နသ်ဝင်ချိန်မှာလည်း မမေ့ဘဲ။ အရှင်မြတ်ထံမှာ စဂျ်ဒဟ်ပြုပြီး “ ကျွန်တော်မျိုးရဲ့ အွမ္မသီတွေအနက် တစ်ဦးတစ်ယောက်မှ ဂျဟန္နမ် မကျဘူးဆိုမှသာ ကြေနပ်ပါရစေ။ လို့ တောင်းဆိုမှာ ဖြစ်လို့ပါ။

ကိုယ်တော့်အကြောင်း သိဖို့၊ လေ့လာဖို့ ဘာကြောင့်လိုအပ်တာလဲ…?

ဒီနေ့ကျွန်တော်တို့၊ ကျွန်တော်တို့ရဲ့ ရင်သွေးငယ်တွေဟာ ဘောလုံးသမားတွေ၊ အနုပညာရှင်တွေအကြောင်း၊ သူတို့ရဲ့ ကိုယ်ရေးရာဇဝင်တွေအကြောင်း၊ သူတို့ရဲ့ ဝင်ငွေတွေရဲ့ အကြောင်း ကောင်းကောင်းသိကြပါတယ်။

နှစ်ဘဝ အောင်မြင်မှုသော့ချက်တွေပေးခဲ့တဲ့ ကိုယ်တော်မြတ် ﷺ အကြောင်း ကောင်းကောင်း မသိသင့်ဘူးလား..။

တစ်သက်လုံး အွမ္မသ်ကို မမေ့ရက်ခဲ့တဲ့ ကိုယ်တော့်ကို ကျွန်တော်တို့ မေ့ရက်နိုင်ပြီလား။....

နောက်ဆုံးမှာ ကွယ်လွန်သူ ချစ်မိတ်ဆွေ မော်လဝီ မုဟမ္မဒ် အလီ (ချောက်) ﷺ နှလုံးသားနဲ့တွေးပြီး နှလုံးသွေးနဲ့ရေးစပ်ဖွဲ့သီခဲ့တဲ့ ကဗျာလေးကို အမှတ်တရတင်ဆက်လိုက်ပါတယ်။



နှလုံးသားနဲ့ ခံစားကြည့်ကြပါစို့...။

အလွမ်း ခ တဲ့ လ

❖ အို... ချစ်သော နဗီ

စိတ်က အတိတ်ဆီရွေ့လျား

ရဗီအွလ် အောက်ဝလ် နေ့များမှာ

ကရုဏာရှင် ဖွားမြင်တဲ့လ

နှိပ်စက်ကြတဲ့ အလွမ်းများ

အသဇ္ဈ် မိုးလင်းတိုင်း လွမ်းစိတ်က မပြေခဲ့ပေါ့...

❖နှစ်ဘဝရဲ့ လမ်းပြသခင်
အကြြင်နာ တစ်ပွေ့တပိုက်
ရင်မှာ ထိုးစိုက်လို့ ပန်ဆင်
ကြြန်အင်ရယ် တစ်မူထူး
အလင်းပြြပန်းလေးတွေ ဖူးပွင့်စေခဲ့သူ....
❖နောက်ဆုံးသော ဒီအွမ္ဓသ်
ဟောဒါရသ် ရဖို့အရေး
ဘဝမျိုးစုံနဲ့ စတေးခဲ့သူ။
❖ဒီအွမ္ဓသ် အတွက်ဆို
လပြြည့်ဝန်းခမျာ ဝပ်ဆင်းရှာတဲ့
သွယ်လျတဲ့ မျက်နှာ တံတွေးရာ တင်ခံခဲ့သူ။
❖တစ်ရက်မှာသာစား
နောက်ရက်ဝယ်အငတ်ခံ
ဒီလိုဒဏ်မျိုးလည်း ခံယူခဲ့သူ။
❖ချစ်စရာ
သမီးတော်လေးတွေဘဝ
ခင်ပွန်းတွေ ပစ်ခွာတာကို ဂရုမစိုက်
အွမ္ဓသ်အတွက် အာရုံစိုက်ခဲ့သူ။

❖လူသားတွေ နှိပ်စက်ကလူ
ဘယ်လိုပင်ပြုကြဦးတော့
အမုန်းရယ်မဖက်
''သူရူး'' လို့ ကင်ပွန်းတပ်လည်း
အပြုံးမျက်နှာနဲ့သူ။
❖ဒီအွမ့်သ် အတွက် ပဲ
လောကစည်းစိမ်တွေ ခဝါချ
ဘာမှ မထည့်ဝါခဲ့သလို
ဇာတိကို စွန့်ခွာ
တစ်မြို့တစ်ရွာကိုပြောင်း
ဒုက္ခချောင်းစီးခဲ့သမျှ
လက်မကို ကွေး လက်ညှိုးလေးနဲ့လည်း
မထိုးရက်ခဲ့သူ။
❖အရှင့်ထံကို ပြန်ဖို့ အချိန်တန်
မူမမှန်တော့တဲ့ အသက်ရှူသံကြား
ခပ်သဲ့သဲ့ သံဖျားရယ်ထွက်
'အွမ့်သ်''အွမ့်သ်' လို့ငြီးတွားခဲ့သူ။

❖နဗီကို သတိရ

တမ်းတခြင်းကဗျာတွေဖွဲ့သီ

လဲ့ကြည့်ကာခိုတွဲ စိုရွှဲခဲ့မျက်ရည်။

❖တို့တွေကို ခွဲခွာ ဒီလမှာပဲထားရစ်

မြှားပစ်ချက်လွှမ်းဒဏ်ရာ

ရင်ခွင်မှာ ကျင်နာစူး

ရာသီတွေ ဘယ်လူကူးဆက်

(ချစ်ရသော နဗီကိုဖြင့်)

မမေ့ရက်ခဲ့ဘူး။







## ရဗီအွလ် အောက်ဝလ်
## (၃)ရက်နေ့

၃ • ကိုယ်တော်မြတ် (ﷺ)ရဲ့ စီရသ်နဲ့အတူ ရှင်သန်ခြင်း

 ကိုယ်တော်မြတ်(ﷺ)နဲ့ ဘဝရှင်သန်ခွင့်ရရှိတဲ့ အခိုက်အတန့်များဟာ လှပလွန်းလိုက်တာ!။

 ကိုယ်တော်(ﷺ)ရဲ့ စီရသ်အတ္ထုပ္ပတ္တိဟာ သောကတွေကို ပြေပျောက်စေပါတယ်။

 ကိုယ်တော် (ﷺ) ရဲ့ နှုတ်ကခြွေတဲ့ ရွှေစကားတွေဟာ အပူခနေတဲ့ ရင်ခွင်ကို အေးမြစေပါတယ်။

 ကိုယ်တော်(ﷺ)ရဲ့ သန့်စင်လှတဲ့ ထွက်သက်ဝင်သက်တွေဟာ ကျွန်တော့်ဘဝမှာ မွှေးရနံ့တွေ ဆွတ်ဖြန်းပေးနေပါတယ်။

 ခမ်းနားလှတဲ့ ကိုယ်တော့်ကို လွမ်းဆွတ်တမ်းတခြင်းတွေက ကျွန်တော့်ကို ငိုစေပါတယ်။

 မျက်ဝန်းထက်အရင် နှလုံးအိမ်က ငိုချတယ်ဆိုတာ ချစ်နဗီ (ﷺ)ရဲ့စီရသ် (အတ္ထုပ္ပတ္တိ)ကို လေ့လာမှပဲ သဘောပေါက်တော့တယ်။

📖 ကျွန်တော်တို့ တမန်တော်မြတ် ﷺ ရဲ့ ဘဝဟာ လောကမှာ အတောက်ပဆုံး စာမျက်နှာပါ။

📖 ကိုယ်တော့်ရဲ့ စီရဉ်ဟာ ဒီကမ္ဘာကြီးမှာ စိမ်းလန်းစိုပြေနေတဲ့ သစ်ပင်ကြီးပါ။ သွေ့ခြောက်နေတဲ့ ဘဝသဲကန္တာရထဲမှာ ချိုမြလှတဲ့ စမ်းချောင်းသဖွယ်ပါပဲ။

⏰ ကိုယ်တော်သခင် ﷺ ရဲ့ ဘဝအနှစ်သာရတွေကို မပြောမိ မဆိုမိဘဲ ကုန်ဆုံးခဲ့ရတဲ့ စက္ကန့်တိုင်းဟာ ဆုံးရှုံးရလေခြင်း....။

🌷ကိုယ်တော့်စီရဉ်ရဲ့ နံ့သာတွေနဲ့ ကြိုင်သင်းခွင့်မရဘဲ ပြီးဆုံးသွားတဲ့ ထွက်သက်ဝင်သက်တိုင်း အတွက် ဝမ်းနည်းရလေခြင်း...။

⭕ အရှင်မြတ်ရဲ့ ကစမ်...၊ ကိုယ်တော်မြတ် ﷺ ရဲ့ စီရဉ်ဟာ လောကကြီးကို အလှဆင်ပေးခဲ့တာပါ။ မှောင်မိုက်နေတဲ့ လောကကြီးကို အလင်းခွင်းပေးခဲ့တာပါ။ တစ်လုံးကလုံး ကို ခမ်းနားစေခဲ့တာပါ။

## 📚 ကိုယ်တော့်စီရဉ်ဆိုတာဟာ .....

ခြောက်ပြစ်ကင်းသဲလဲစင်တဲ့ နဗီဖြစ်ခြင်းရဲ့ ပြယုဂ်ပါ။

အရှင့် ဗျာဒိတ်ဟာ ကြီးကျယ်လှကြောင်း သက်သေပါ။

အောင်နိုင်သူတစ်ဦးရဲ့ သင်ပြခြင်းတွေပါ။

လူပီသသူတစ်ဦးရဲ့ ကိုယ်ကျင့်တရား သင်ခန်းစာပါ။ ခေါင်းဆောင်ကောင်းတစ်ဦးရဲ့ စံနမူနာ တည်ဆောက်ပုံပါ။

📚 ကိုယ်တော် ﷺ စေလွှတ်ခံရခြင်းဟာ တစ်ခွင်ကမ္ဘာ ကရုဏာ ပွားဖို့ပါ။

- ကိုယ်တော့်ဘဝဟာ ကမ္ဘာကြီးကို နိူးဆော်ဖို့ပါ။
- ကိုယ်တော့်ရဲ့ မိန့်ခွန်းချက်တွေဟာ ရှရီအသ် ﴾တရားတော်﴿ပါ။
- ကိုယ်တော့်ရဲ့ စကားတွေဟာ ဝဟီ﴾ကောင်းကင်က တိုက်ရိုက် လမ်းညွှန်မှု﴿ပါ။



**Sheik Aaiz Al qarni ရဲ့ စီရသ်ဆိုင်ရာ ရေးသားချက်များမှ ကောက်နှုတ် ပြန်ဆိုသည်။**





ရဗီအွလ် အောက်ဝလ်
(၄)ရက်နေ့

၄ { • ကိုယ်တော်မြတ် (ﷺ)ဆိုတာ



ကိုယ်တော်မြတ်(ﷺ)ဟာ ....

တရားမျှတခြင်းရဲ့ လမ်းပြမီးအိမ်ပါ။

ရှင်းလင်းစွာ ဟောကြားခြင်းအတွက် အလင်းပြ လစန္ဒာပါ။

- စေးနဲတွန့်တိုလှတဲ့ဒီလောကကြီးမှာ ပေးကမ်းရက်ရောခြင်းများ မှုဝေရာ ဌာနချုပ်ပါ။ ရက်စက်တဲ့လောကမှာ မုဒိတာ စံအိမ်ပါ။
- မြင့်မြတ်တော်မူသော အရှင်မြတ်က သည်းထန်စွာရွာသွန်းဖြိုးတဲ့ မိုးရေစက်တွေနဲ့ မြေပထဝီကို သန့်စင်စေတဲ့အလား လောကကြီးကို ရွေးချယ်ခံရတဲ့ နဗီကြီးနဲ့ သန့်စင်စေခဲ့တာပါ။
- လူသားထုကြီးရဲ့ မွန်မြတ်မှုဟာ မုဟမ္မဒ်(ﷺ)ကြောင့်ပါ။



လူသားတို့ရဲ့ ဂုဏ်သိက္ခာဟာ အဟ်မဒ်(ﷺ)ရှိနေလို့ပါ။

قد شرف الله أرضا أنت ساكنها    وشرف الناس إذ سواك إنسانا



အရှင်မြတ်က ကိုယ်တော်(ﷺ)စံမြန်းတဲ့မြေကို ထွတ်မြတ် စေခဲ့ပါပြီ။

 ကိုယ်တော့်ကို လူအဖြစ် ဖန်ဆင်းကတည်းက လူသားအားလုံးကို ထွတ်မြတ်စေလိုက်တာပါ။ သင့်ရဲ့ ဖခင်ဟာ မွေးဖခင်ဆိုရင် ကိုယ်တော်(ﷺ)ကတော့ အသင့်ကို အရှင် မြတ်ချီးမြှင့်တဲ့ နှစ်ဘဝရဲ့ ဖခင်ကြီးပါ။ သင့်ဖခင်က သင့်ကို ကျွေးမွေးစောင့်ရှောက်ခဲ့တယ်ဆိုရင် ကိုယ်တော်(ﷺ)က အသင့်ကို ဝဟီ (အရှင့်ဗျာဒိတ်ဟာ)နဲ့ နှစ်ဘဝရဲ့ သိက္ခာတွေ ချီးမြှင့်ခဲ့တာပါ။

 သင့်ဖခင်က အသင့်ကို ဝတ်ဆင်ပေးတယ်ဆိုရင် ကောင်းခြင်းများ သင်ကြားပို့ချပေးတဲ့ ကိုယ်တော်(ﷺ)က သင့်ကို အရှင့်ဆီက ကရုဏာဝတ်ရုံတွေနဲ့ လွှမ်းခြုံပေးနေတာပါ။

 သင့်ဖခင်က သင့်ကို တိုက်အိမ်၊တဲအိမ်တွေထဲမှာ နေထိုင်စေခဲ့ရင် မီးအိမ်ရှင်(ﷺ)က သင့်ကို အရှင်မြတ်ရဲ့ အနီးမှာ အမတဥယျာဉ်ဘုံနန်း ကြီး ချီးမြှင့်ပေးမှာပါ။

 သင့်ဖခင်က သင့်ကို ရွှေငွေ၊ ဥစ္စာ၊ရတနာရှာဖို့ သင်ပြပေးရင် သင့်ချစ်နဗီက ခွင့်လွှတ်တော် မူသော အရှင်မြတ်ဆီ သွားရာလမ်းကို ပြသပေးခဲ့တာပါ။

 **Sheik Dr Aaiz Alqarni ၏ ရေးသားချက်များမှ ကောက်နှုတ်ပြန်ဆိုသည်။**





ရဇီအွလ် အောက်ဝလ်
(၄)ရက်နေ့

၅ • ကိုယ်တော်မြတ် (ﷺ)ကို ချစ်တတ်ပြီလား



ကိုယ်တော်မြတ်(ﷺ)ကို ချစ်ဖို့ ကိုယ်တော် မြတ်(ﷺ)ရဲ့စီရသ်ကို လေ့လာဖို့ ကျွန်တော်တို့ ပြောဖြစ်ကြပါတယ်။



ကိုယ်တော့်ကို ချစ်တတ်ရင် ကျနော်တို့ နှစ်ဘဝအောင်မြင်သွားပါလိမ့်မယ်။



ဇုလ်ခိုဝိုင်စေ့ရာ အလ်ယမနီဆိုတဲ့ ဆွဟာဗီကြီးဟာ အလွန်ချစ်ဖို့ကောင်းပါတယ်။ သူက ကိုယ်တော်မြတ်(ﷺ)ကို "ကေယာမသ် ဘယ်တော့လဲ? လို့ မေးတော့ ......

ကိုယ်တော်မြတ်(ﷺ)က "အသင် ကေယာမသ်အတွက် ဘာတွေများပြင်ဆင်ပြီးပြီလဲ? လို့ မေးမြန်းခဲ့ပါတယ်။

သခင်က "နမားဇ်တွေအများကြီး မဖတ်ရသေးပါဘူး၊ ရိုဇာတွေလည်း အများကြီး မထားရသေးပါဘူး၊ **"သို့ပေမယ့်လည်း ကျွန်တော် အလ္လာဟ်အရှင်မြတ်နဲ့ ရစူလ်တမန်တော်မြတ်ကို ရင်ဘတ်ကြီးနဲ့၊ နှလုံးသားကြီးနဲ့ ချစ်ပါတယ်"** လို့ ရိုးရိုးရှင်းရှင်း ပြောချလိုက်ပါတယ်။



ကိုယ်တော်မြတ်(ﷺ)ရဲ့ အဖြေကိုလည်း ကြည့်လိုက်ပါဦး.....

أنت مع من أحببت (**မင်းချစ်တဲ့သူနဲ့အတူ တမလွန်မှာ မင်းနေရလိမ့်မယ်တဲ့**)။



ဒီဟဒီးဆ်တော်ကို ဆင့်ပြန်ခဲ့တဲ့ အနတ်စ်(ﷺ)က "ကျွန်တော် ကိုယ်တော့်ထံကနေ ဟဒီးဆ်တော်ပေါင်းများစွာ ကြားဖူးပါတယ်။ ဒါပေမယ့် ဒီနေ့ ကိုယ်တော်မိန့်လိုက်တဲ့ ..... أنت مع من أحببت (**မင်းချစ်တဲ့သူနဲ့အတူ တမလွန်မှာ မင်းနေရလိမ့်မယ်**)ဆိုတဲ့ မိန့်ကြားချက်ကို ကြားချိန် ပျော်ရသလောက်မပျော်ခဲ့ဖူးပါ။" လို့ ပြောကြားခဲ့ပါတယ်။



ဒါကြောင့် ကျွန်တော် အလ္လာဟ်အရှင်မြတ်ကိုလည်း ချစ်တယ်.. အလ္လာဟ့် ရစူလ်ကိုလည်း ချစ်တယ်၊ အဗူဗက်ရ်သခင်၊ အိုမရ် သခင်၊ အွတ်ဆ်မာန်သခင် ၊ အလီသခင်(ﷺ)တို့အားလုံးကို ချစ်ပါတယ်။ ဒီအချစ်ကြောင့် ဂျန္နသ်ထဲမှာ ဒီအချစ်တော်တွေနဲ့အတူ နေရလိမ့်မယ်လို့ မျှော်လင့်မိပါတယ် ....တဲ့ ။

**ကိုယ်တော်မြတ်(ﷺ)ကို ချစ်တတ်ပြီလား။ မချစ်တတ်သေးရင် အချစ်မှတ်တိုင်တက်ပြသွားတဲ့ ဆွဟာဗာတွေဆီကနေ သင်ယူရမှာပါ။**





ရဗီအွလ် အောက်ဝလ်
(၆)ရက်နေ့

၆ • ကိုယ်တော်မြတ် (ﷺ)ကို ချစ်တတ်ပြီလား

 အွရ်ဝါးဗင်န်မတ်စ်အူးဒ် စကဖီဟာ မုရှ်ရိက်တွေဘက်က ကိုယ်စားလှယ်အဖြစ် ကိုယ်တော်မြတ်(ﷺ)နဲ့ ဆွေးနွေးဖို့ ဟုဒိုင်ဗီယာကို လာခဲ့ ပါတယ်။ အဲ့ဒီအချိန်မှာ သူဟာ အစ္စလာမ် လက်မခံခဲ့သေးပါဘူး။ ကိုယ်တော့်ထံကအပြန် သူ့မိတ်ဆွေတွေကို " ငါဟာ လောကရဲ့ စူပါပါဝါရှင် ဘုရင်တွေ ထံမှာ ခစားဖူးပါတယ်။ ရောမအင်ပါယာရဲ့ ရှင်ဘုရင် ကိုင်ဆရ်၊ ပါရှန်းအင်ပါယာရဲ့ ကေရာဇ်ကိစ္စရာ စသဖြင့်.......

ဒါပေမယ့် မုဟမ္မဒ်ကို သူ့ရဲ့ ဆွဟာဗာတွေက ဂုဏ်ပေးသလောက်၊ ချစ်မြတ် နိုးသလောက် ဘယ်သူ့ လက်အောက်ငယ်သားကမှ မိမိရဲ့ ဘုရင်ကို ဂုဏ်ပေးလေးစားတာမျိုး မတွေ့ဖူးပါဘူး" လို့ ပြောကြားခဲ့ပါတယ်။

❖ ဒီစကားကို အုရ်ဝါးသခင်က မွတ်စ်လင်မ်မဖြစ်သေးခင် သက်သေခံ ပြောကြားခဲ့တာပါ။

 အဗူဗက်ရ်(رضي الله عنه)သခင်ကြီးဟာ မူးမေ့သည်အထိ ရိုက်နှက်ခြင်းခံခဲ့ ရပါတယ်။ သတိလည်လာချိန်မှာ အနားရှိသူတွေက တစ်ခုခုစားဖို့သောက်ဖို့ ပြောတော့ ကိုယ်တော့်ရဲ့ မျက်နှာတော်ကို မဖူးမျှော်ရသေးဘဲ ဘာတစ်ခုမှ စားဖို့ မရှိဘူးလို့ ပြန်ပြောခဲ့ပါတယ်။

 အိုမရ်(ﷺ)က وَاللَّهِ، لَأَنتَ أَحَبُّ إِلَيَّ مِن نَفْسِي

"အို..ကိုယ်တော် အရှင်မြတ် ကစမ်... ကျွန်တော့်အသက်ထက် ကိုယ်တော့် ကို ချစ်မြတ်နိုးပါတယ်" လို့ အချစ်သစ္စာပြုခဲ့ပါတယ်"

 အွတ်ဆ်မားန်(ﷺ)က ကိုယ်တော့်ကို ချစ်လွန်းလို့ မိမိဥစ္စာတွေကို ကိုယ်တော်မြတ်(ﷺ)သုံးစွဲစေခဲ့တဲ့ နေရာမှာ သုံးစွဲခဲ့တာပါ။

 အလီ(ﷺ)ဟာ ကိုယ်တော်မြတ်(ﷺ)ဟိဂျ်ရသ်ပြုတဲ့ ညမှာ ကိုယ်တော့် အိပ်ယာထက် အိပ်စက်ပြီး ကိုယ့်တော့်ဘက်ကနေ ရန်သူတွေနဲ့ ရင်ဆိုင်ကာ အချစ်သက်သေပြခဲ့ပါတယ်။

 ဒါကတော့ စိုမိုင်ရားအ်ဗင်န်သေ့ကိုင်စ် သခင်မကြီးပါ။ အိုဟိုဒ်ကြိုးပမ်းမှုမှာ သားတော်ရှဟီးဒ်ဖြစ်သွားကြောင်း သိလိုက်ရပါတယ်။ သို့ပေမယ့်လည်း ပထမဆုံး သခင်မကြီးမေးလိုက်တာက "ကိုယ်တော်မြတ်(ﷺ)ရဲ့ အခြေအနေ ဘယ်လိုလဲတဲ့...? ကိုယ်တော်သခင်(ﷺ)ကောင်းမွန်စွာရှိကြောင်း သိရတော့မှ

"كُلُّ مصيبة بعدك يا رسول الله جَلَلٌ"

ကိုယ်တော်မြတ်(ﷺ)ရှိနေရင်အရာအားလုံးဟာ အသေးအဖွဲလေး တွေပါပဲ၊ စာမဖွဲ့ထိုက်ပါဘူး"လို့ ပြောကြားခဲ့ပါတယ်။

 **ကိုယ်တော့်ကို ကလေးတွေဘယ်လိုများချစ်လဲကြည့် ကြည့်ရအောင်။**

 ဗဒရ်စစ်ပွဲနေ့မှာ အဗ်ဒုရ်ရဟ်မာန်ဗင်န်အောက်ဖ် သခင်ကြီးဘေးမှာ အဖ်ရားအ်သခင်ရဲ့ သားတော်နှစ်ပါးဖြစ်တဲ့ မုအားဇ်နဲ့ မိုအောက်ဝဇ်တို့ ရပ်နေကြပါတယ်။

 သူတို့နှစ်ဦးက သခင်ကြီးကို "ဗျို့..ဦးလေး ၊ အဗူဂျဟလ်ဆိုသူကို ပြပါအုံး။ သူက ကိုယ်တော့်ကို ဆဲရေးတိုင်းထွာပြီး ဒုက္ခပေးတယ်လို့ ကြားတယ်။ တွေ့ရာ သင်္ချိုင်း ခါးမဆိုင်း သူ့ကို ရှင်းပစ်လိုက်ချင်လို့ပါ..တဲ့။

 ကြိုးစင်ပေါ်မှာ သွေးစက်လက်နဲ့ ရက်ရက်စက်စက် ညှင်းပမ်းခံနေရတဲ့ ခိုဗိုင်ဗ်(ﷺ)ကို ရန်သူတွေက "မင့်နေရာမှာ မုဟမ္မဒ်ကို အစားထိုးပြီး ငါတို့မင်းကို လွှတ်ပေးလိုက်မယ်ဆိုရင် မင်းဘယ်လို သဘောရလဲ။" လို့ မေးတော့ သခင်ကြီးက "ငါလွတ်မြောက်ဖို့ ငါ့ကိုယ်တော် ခြေတော်ဟာ ဆူး ဆူးခံရမယ်ဆိုရင်တောင် ငါအသေခံလိုက်မယ်။ ငါ့ချစ်နဗီ ခြေတော် ဆူး ခ မခံဘူး" လို့ ဖြေခဲ့ပါတယ်။

 ဟစ္စာန်(ﷺ)က

فإن أبي ووالده وعرضي　　　لعرض محمد منكم فداء

**ငါ့အဖေ၊ ငါ့အဖိုး၊ ငါ့သိက္ခာတွေဟာ မင်းတို့ရန်ကနေ မုဟမ္မဒ်(ﷺ)ရဲ့ သိက္ခာကို ကာကွယ်ဖို့အတွက် စတေးပြီးသားပဲ"လို့ စပ်ဆိုခဲ့ပါတယ်။**

 နောက်လည်း ဆွဟာဗာတွေ ကိုယ်တော့်ကို ချစ်ခဲ့ကြတဲ့ အချစ်ပုံရိပ်တွေဟာ သမိုင်းစာမျက်နှာတွေမှာ များ စွာ ကျန်ပါသေးတယ်။

 ဒါတွေဟာ ဒဏ္ဍာရီပုံပြင်တွေမဟုတ်ပါဘူး။ သမိုင်းရင်ပြင်မှာ မှန်ကန်တိကျစွာ ကမ္ဗည်းထိုးထားခဲ့ရတဲ့ အချစ်သက်သေတွေပါ။ ကျွန်တော်တို့ ကိုယ်တော်မြတ်(ﷺ)ကို အမှန်တကယ် ချစ်နိုင်ပါစေလို့.....







ရဗီအွလ် အောက်ဝလ်
(၇)ရက်နေ့

၇ { • ချစ်ထိုက်လို့ ချစ်လိုက်ပါ

 လောကမှာ ချစ်နေကြသူ အချင်းချင်းဟာ အချစ်နှစ်မျိုးအနက်က တစ်မျိုးနဲ့ ချစ်နေကြတာပါ။

 ❶ သဘာဝအချစ်

သွေးတော်စပ်လို့ မိဘနဲ့သားသမီးအချင်းချင်း
ချစ်တယ်၊ ပညာနို့ချိုရည် သောက်စို့ထားလို့ ဆရာတပည့်တို့ ချစ်ကြတယ်။....

 ❷ ဉာဏအချစ်

• လှလို့ချစ်တယ်

* ပြည့်စုံလို့ချစ်တယ်

* ပေးကမ်းလို့ချစ်တယ်

 ကိုယ်တော်မြတ်(ﷺ)ကို ဒီအချစ်တွေထက် ပိုတဲ့အချစ်နဲ့ ချစ်ထိုက်ပါတယ်။

သဘာဝအချစ်နဲ့ဆိုလည်း

ကျွန်တော်တို့ မိဘတွေက လောကရဲ့မီးကနေ ကာကွယ်ပေးရင် ကိုယ်တော်မြတ်(ﷺ)ဂျဟန္နမ်ငရဲမီးကနေ လွတ်မြောက်အောင် လုပ်ပေးတာပါ။

 ဆရာသမားတွေက ဘဝရဲ့အောင်မြင်မှုတွေရဖို့ သင်ပေးရင် ကိုယ်တော်မြတ်(ﷺ)က နှစ်ဘဝအောင်မြင်စေမယ့် သင်ခန်းစာတွေ သင်ပေး ခဲ့တာပါ။

**ဥာဏအချစ်နဲ့ဆိုလည်း......**

 တစ်ဦးတစ်ယောက်ကို **လှလို့ ချစ်ရင်** ကိုယ်တော်မြတ်(ﷺ)ဟာ ကာယအလှ၊ စာရိတ္တအလှ ၊ မိတ္တအလှ ....အလှပေါင်းစုံ ခ နေတာပါ။

 ယူစွတ်ဖ်(عليه السلام)ဟာ လောကရဲ့ အလှတစ်ဝက်ကို ချီးမြှင့်ခံခဲ့ရပါ တယ်။ ကိုယ်တော်မြတ်(ﷺ)သာ ကွဲမြန်းဖို့မရှိရင် သခင်ဟာလည်း ဒီအလှတွေ ပြခွင့်ရမှာ မဟုတ်ပါဘူး။

 မိခင်မွန် အာအေရှာ(رضي الله عنها)ထက် ပိုမိုပြီး ကိုယ်တော့်အလှကို ဘယ်သူသိနိုင်မှာလဲ...?

 သခင်မကြီးက “ ယူစွတ်ဖ်(عليه السلام)အလှကိုကြည့်ပြီး မိမိတို့ရဲ့ လက်တွေကို လှီးဖြတ်လိုက်တဲ့ အီဂျစ်က ဝန်ကတော်တွေ ကိုယ်တော့်အလှကို သာ တွေ့သွားလို့ကတော့ နှလုံးသားတွေကို လှီးဖြတ်ပစ်ကြမှာ”တဲ့...။

 ဟစ္စာ့န်(رضي الله عنه)က

وَأحسنُ منكَ لم تر قطُّ عيني ** وَأجْمَلُ مِنْكَ لَمْ تَلِدِ النّسَاءُ

خلقتَ مبرأً مِنْ كلِّ عيبٍ ** كأنكَ قدْ خلقتَ كما تشاءُ

 "ကိုယ်တော့်ထက်လှတဲ့သူကို မျက်ဝန်းက မတွေ့ဖူးပါ။ ကိုယ်တော့် ထက် လှပသူကို ဘယ်အမျိုးသမီးကမှလည်း မမွေးဖွားပေးခဲ့ပါ။

 ကိုယ်တော်သခင်(ﷺ)ဟာ ချွတ်ယွင်းချက်ကင်း သဲလဲစင်ပါ။

 ကိုယ်တော်(ﷺ)ရဲ့ စိတ်တိုင်းကျ အရှင်မြတ်က ကိုယ်တော့်ကို ဖန်ဆင်း ပေးခဲ့တာပါ။" လို့ စပ်ဆိုခဲ့ပါတယ်။

## ပြည့်စုံကုံလုံလို့ချစ်ရင်

 ကိုယ်တော်မြတ်(ﷺ)ဟာ အပြည့်စုံဆုံးလူသားပါ။

 ကိုယ်တော့်ကို ဖန်ဆင်းဖို့ မရှိရင် ဒီလောကကြီးကိုလည်း အရှင်မြတ်က ဖန်ဆင်းမှာမဟုတ်ပါဘူး။

 ကိုယ်တော့်ရဲ့ ပြည့်စုံကုံလုံကြောင်း အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန် မှာ **"وإنك لعلى خلق عظيم"** ကိုယ်တော်ဟာ ကြီးကျယ်တဲ့ စာရိတ္တအလှပိုင်ရှင် ဖြစ်တယ်"လို့ သက်သေပေးထားတာပါ။

## ပေးကမ်းလို့ ချစ်ရင်

 ကိုယ်တော်မြတ်(ﷺ)ပေးကမ်းခဲ့တာတွေဟာ နှစ်ဘဝရဲ့ အောင်မြင်မှု သော့ချက်တွေပါ။

 ကိုယ်တော့်ကို မချစ်နိုင်ရင် အီမာန် မပြည့်ဝပါ။

အီမာန် မပြည့်ဝရင် ဂျန္နသ်ရဖို့ ခက်မှာပါ။

ဒါကြောင့် ကိုယ်တော်မြတ်(ﷺ)ဟာ ချစ်ခြင်းခံထိုက်ပါတယ်။

 ဒါကြောင့် “ချစ်ထိုက်လို့ ချစ်လိုက်ပါ” လို့ ပြောချင်တာပါ။





ရဗီအွလ် အောက်ဝလ်
၈ ရက်နေ့

၈ • ကိုယ်တော်မြတ်(ﷺ)နဲ့
ဆုံခွင့်မရပေမယ့်လည်း...

ညယံထက်က သဟာဗ်ျဂျဒ်နမားဇ်ကို ကိုယ်တော်မြတ်(ﷺ)နောက်မှာ ဖတ်ခွင့် မရခဲ့ဘူးဆိုရင်လည်း နမားဇ်တွေမှာ ကိုယ်တော့် အမွေစား အမွေခံတွေရဲ့နောက်လိုက်ပြီး ငိုကြွေးခွင့်တော့ရှိနေပါသေးတယ်။

ကိုယ်တော့်အပါးတော် ခစားခွင့်မရပေမယ့်လည်း ကိုယ်တော့်ရဲ့ စီရင်ဖြန့်ချိခြင်းမှာ မဆုံးရှုံးပါစေနဲ့လား။ ကိုယ်တော့်ရဲ့ စွန္နသ်ကို ဖဝါးခြေထပ် လိုက်ကြစို့လား။

ကိုယ်တော့်လမ်းစဉ်အတွက် အသက်ပေးကာကွယ်ခွင့် မရသေးရင်လည်း ကျမ်းဂန်ပြုစုရင်းနဲ့ ကာကွယ်ကြမယ်မလား..။

ကိုယ်တော်နဲ့အတူ ဗဒရ်၊အုဟိုဒ်အစရှိတဲ့ ကြိုးပမ်းမှုတွေမှာ ပါဝင်ခွင့်မရခဲ့ရင်လည်း **"قل هو الله أحد"** (စူရဟ်အိခ်လားစ်)ကို စနစ်တကျဖတ်ပြီး ဆဝါးဗ်ပို့သခြင်းမှာ ပါဝင်ကြမယ်မလား။

 ဟေရာလ်ှိုင်ဂူ၊ဆောင်းဝ်ရ်လ်ှိုင်ဂူတွေထဲမှာ ကိုယ်တော်(ﷺ)ရဲ့ အဖော်အဖြစ် လိုက်ပါခွင့်မရခဲ့ရင်လည်း ကိုယ်တော့်အတွက် ကျွန်တော်တို့ရဲ့ အသက်သွေးချွေးတွေ စတေးကြစို့လား။

 ဗဒရ်ကြိုးပမ်းမှုမှာ ကိုယ်တော်စံမြန်းတဲ့ ရွက်ဖျင်တဲအောက်မှာ ကိုယ်တော်နဲ့အတူ ရှိခွင့်မရလည်း ကျွန်တော်တို့ရင်ထဲမှာ ကိုယ်တော့်အချစ် ပလ္လင်တစ်ခု တည်ဆောက်လိုက်ပါစို့လား…။

 **ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ရေးသားချက်မှ**

**ကောက်နှုတ်ပြန်ဆိုသည်။**





## ရဗီအွလ် အောက်ဝလ်
## (၉)ရက်နေ့

၉ { • ကိုယ်တော်မြတ်(ﷺ)နဲ့ ဆုံခွင့်မရပေမယ့်လည်း...(၂)

 ကိုယ်တော်အေမာမ်အဖြစ်ဝတ်ပြုနေတဲ့ နမားဇ်တွေမှာ ကိုယ်တော့် နောက်က လိုက်ဖတ်ခွင့်မရခဲ့ရင်လည်း ကိုယ်တော့်ကို ဘဝရဲ့ရှေ့ဆောင် လမ်းပြအဖြစ် နာခံခွင့်ရှိပါတယ်။

 ကိုယ်တော်မြတ်(ﷺ)ရဲ့ အေးရိပ်ဆာယာအောက်မှာ ထိုင်ခွင့်မရခဲ့ရင် လည်း ကိုယ်တော်မြတ်(ﷺ)မိန့်ကြားခဲ့တဲ့ ဟဒီးဆ်တော်တွေနဲ့ အတူဘဝ ကုန်ဆုံးလို့ရပါတယ်။

 ကိုယ်တော်မြတ်(ﷺ)ရဲ့ သဝဏ်လွှာ ဖြန့်ချိရေးမှာ နှလုံးသွေးတွေစ တေးဖို့ ခဲယင်းနေရင်လည်း ကိုယ်တော့်သာသနာတော် မှန်ကန်ကြောင်း အ တွက် အထောက်အထားကောင်းတွေတင်ဆက်ပြီး ကာကွယ်နိုင်ပါတယ်။

 အိမ်နေ့ မတ်စ်အူးဒ်(ﷺ)သခင်ကြီးနဲ့အတူ ကိုယ်တော်(ﷺ)ရဲ့ ဖိနပ် တော် သယ်ဆောင်ခွင့် မရခဲ့ပေမယ့်လည်း ကိုယ်တော့်ရဲ့ ဟဒီးဆ်တော်များကို လူထုထပ်တဲ့ နေရာတွေ သယ်ဆောင်သွားနိုင်ပါတယ်။

 အဗူဟိုရိုင်ရဟ်(ﷺ)နဲ့အတူ ကိုယ်တော့်နံဘေးမှာ ခစားခွင့် မရခဲ့ရင်လည်း (အဗူဟိုရိုင်ရဟ်သခင် လက်ဆင့်ကမ်းပေးခဲ့တဲ့) ကိုယ်တော့် သာသနာတော်ကို ကမ္ဘာအနှံ့မှာ ပို့ချနိုင်ပါတယ်။

 ကိုယ်တော့်စွန္နသ်တော် တွေတည်ရှိရာမှာ ထိုင်ကြမယ်။

 ကိုယ်တော့်သာသနာထွန်းကားရာ တံခွန်ရိပ်မှာ ခိုလှုံလိုက်ပါမယ်။

 ကိုယ်တော်နဲ့အတူ ရောင်သွာတော်မှာ နေခွင့်မရရှိသေးရင်လည်း မကြာမီ ကိုယ်တော်တိုက်ကျွေးမယ့် ကောင်ဆရ်ရေကန်ကနေ တဝကြီးသောက်လိုက်ပါမယ်။

 အခု... ကျွန်ုပ်တို့ကိုယ်ကို (ဟရှရ်မှာ) ကိုယ်တော်မြတ်(ﷺ)နဲ့ တွေ့ဆုံခန်းတွေ၊ ကိုယ်တော့်လက်တော်ကနေ ကောင်ဆရ်ရေ သောက်သုံး ခန်းတွေအကြောင်း တဝကြီး ပြောကြည့်ရအောင်။

 (အွမ္မသ်အတွက်) ကိုယ်တော်အသနားခံပေးမယ့်နေ့ ကျွန်တော်တို့ ဘယ်မှာများ ရှိနေလိုက်မလဲ မသိဘူး....?

 **အဲ့ဒီအချိန်မှာ ဘာတွေယူဆောင်ပြီး ကိုယ်တော်နဲ့ တွေ့ရမလဲ...?**

" ငါ့ရဲ့အွမ္မသ်ဟာ ငါ့ထံ ကောင်ဆရ်ရေသောက်သုံးဖို့ ရောက်လာကြလိမ့်မယ်။ သူတို့ကို ငါကိုယ်တော်ဟာ ဝုဇူရေထိခဲ့တဲ့ အစိတ်အပိုင်းတွေ လင်းဝင်း နေတာကို ကြည့်ပြီး မှတ်မိလိမ့်မယ်" ဆိုတဲ့ ကိုယ်တော့်မိန့်ခွန်းကို မမေ့လိုက် ပါနဲ့....။

 ဒီကိစ္စနဲ့ပတ်သက်ပြီး သိုရာဟ်ကျမ်းနဲ့ ဘိုင်ဘလ်ကျမ်းတွေမှာလည်း ကျွန်တော်တို့အတွက် ချီးမွမ်းခန်းတွေ လာရှိထားတယ်ဆိုပဲ..။

 ကိုယ်တော့်ကို နဗီအဖြစ်ခန့်အပ်တော်မူသော အရှင်၊ ကျွန်တော်တို့ကို ကိုယ်တော့်ရဲ့ အွမ္မသီ ဖြစ်ခွင့်ချီးမြှင့်တော်မူသောအရှင်၊ အရှင့်ထံကနေ ကိုယ်တော့်ကို အချစ်စစ်နဲ့ ချစ်ခွင့် တောင်းခံအပ်ပါတယ်။

**"ကျွန်တော်မျိုးတို့ကို ကူညီခံရတဲ့ အုပ်စုထဲမှာ ထည့်သွင်းပေးသနားတော်မူပါ။ လွတ်မြောက်အောင်မြင်ကြမယ့် အုပ်စုထဲမှာ ထည့်သွင်းပေးသနားတော်မူပါ။"**

 **ဒေါက်တာ အာအိဇ်အလ်ကရ်နီ၏ ရေးသားချက်မှ ကောက်နှုတ်ပြန်ဆိုသည်။**





ရဗီအွလ် အောက်ဝလ်
(၁၀)ရက်နေ့

၁၀ { • ဒီနေ့ရဲ့ အကောင်းဆုံ စီရသ် မှတ်စုတစ်ခု....

 မော်လာနာ မိုနာဇွေ့ရ် အဟ်စန် (ဂီလာနီ) (ﷺ)ရေးသားပြုစုခဲ့တဲ့ "النبي الخاتم" ဆိုတဲ့ ကျမ်းဟာ ကမ္ဘာကျော် ကျမ်းတစ်ဆူဖြစ်ပါတယ်။

 ဒီကျမ်းရဲ့ အဖွင့်အမှာစကားကို ဟဇရသ် မော်လာနာ မန်ဇူးရ်နူအ်မာနီ (ﷺ) သခင်က ရေးသားပေးခဲ့တာပါ။

 သခင်ကြီးရဲ့ အမှာစာမှာ အလွန်တန်ဖိုးရှိတဲ့ စီရသ်ဆိုင်ရာ မှတ်စုလေး တစ်ခုပါဝင်နေပါတယ်....

ကိုယ်တော်မြတ်(ﷺ)ရဲ့ မက္ကဟ်မြို့မှာနေထိုင်ခဲ့တဲ့ (၁၃)နှစ် တာသက် တမ်းဟာ နှလုံးရည်ကို အခြေခံကာ တည်ဆောက်ခဲ့တဲ့ သက်တမ်း ဖြစ်ပြီး။

❍ မဒီနာမြို့တော်မှာ နေထိုင်ခဲ့တဲ့(၁၀)နှစ်တာသက်တမ်းဟာ ဉာဏစွမ်း ရည်နဲ့ တည်ဆောက်ခဲ့တဲ့ သက်တမ်းဖြစ်ပါတယ်တဲ့။

| | |
|---|---|
| | **မက္ကာမြို့တွင်နေစဉ်** = နှလုံးရည်အားဖြင့်တည်ဆောက်ခြင်း။<br>**မဒီနေ့မြို့တွင်နေစဉ်** = ဦးနှောက်အသိဉာဏ်အားဖြင့် တည် ဆောက်ခြင်း။ |



ရဗီအွလ် အောက်ဝလ်
(၁၁)ရက်နေ့

၁၁ • တစ်ခွင် ကမ္ဘာ ကရုဏာပွားသူ

❖ မြင့်မြတ်တော်မူသောအရှင်မြတ်က မြတ်ကိုယ်တော့်ကို(ရဟ်မသ်•••ကရုဏာ ပြယုဂ်)လို့ ကင်ပွန်း တပ်ထားပါတယ်။ တစ်ခွင်ကမ္ဘာကရုဏာပွားဖို့ စေလွှတ်ခဲ့ပါတယ်။

❖ ကိုယ်တော့်ရဲ့ လမ်းစဉ်၊ ကိုယ်တော်ရဲ့ စီရသ်၊ ကိုယ်တော့်ရဲ့ ကိုယ်ကျင့် တရား အားလုံးတို့ကို ကရုဏာဖြန့်ချိရာအဖြစ် စီမံပေးခဲ့ပါတယ်။

❖ ကိုယ်တော်မြတ်(ﷺ)အား မိုးခုနှစ်ထပ်အထက်မှ ((ငါအရှင် မြတ်သည် အသင်တမန်တော်အား တစ်ခွင်ကမ္ဘာ ကရုဏာပွားသူအဖြစ် စေလွှတ်တော်မူခဲ့ကြောင်း)) ထုတ်ပြန်တော်မူခဲ့ပါတယ်။ 📖(စူရဟ်ဟဂ်ျ (၂၂)၊ အာယသ် (၁၀၇))

❖ ဒါ့ကြောင့် မြတ်ကိုယ်တော်ရဲ့ အပြင်ခန္ဓာနဲ့ အတွင်းသန္တာန်တို့ဟာ ကရုဏာပွားလျက်ရှိနေပါတယ်။

❖ကိုယ်တော့်ရဲ့ ကျင့်မူရာများ ၊ နှုတ်မှခြွေသော ရွှေစကားများဟာလည်း ကရုဏာ နှောလျက် ရှိနေပါတယ်။

❖ မြတ်ကိုယ်တော်ဟာ အွမ္မသ်အတွက် ကရုဏာလက်ဆောင်ပါ။ မိုးကောင်းကင်က သက်ဆင်းလာတဲ့ အရှင့်ဆုလာဘ်တစ်ခုပါ။

❖ ဒါကြောင့်လည်း အရှင်မြတ်က မြတ်ကိုယ်တော်ကို ကျမ်းမြတ်ကုရ်အာန်မှာ “ အသင့်တို့ထံ အသင်တို့ထဲက ရစူလ်တမန်တော်မြတ် ကြွမြန်းခဲ့ပြီ။ အသင်တို့ ဒုက္ခဖြစ်မှာကို မခံစားနိုင်တဲ့ ရစူလ်၊ အသင်တို့တရားလမ်းမှန်ရစေဖို့ ဆန္ဒအာသီသ ပြင်းပြတော်မူသောရစူလ်၊ မုအ်မင်န်တို့ပေါ် အထူးကရုဏာထားတော်မူသောရစူလ်(ဖြစ်ပေတယ်။)”ဆိုပြီး ခမ်းခမ်းနားနား ဂုဏ်ပြုပေးခဲ့ တာပါ။ 📖 (စူရဟ် သောင်ဗဟ်(၉)၊ (၁၂၈))

❖ မြင့်မြတ်တော်မူသော အရှင်မြတ်က ကိုယ်တော့်ကို မုအ်မင်န် ကာဖိရ် မခွဲခြားဘဲ ကရုဏာပွားပေးဖို့ စေလွှတ်ခဲ့ပါတယ်။

❖ အဟိတ်တိရိစ္ဆာန် တောတောင်မကျန် ဝေနေယျအပေါင်း၊ အမျိုးသား၊ အမျိုးသမီးမကျန် ၊ ကြီးငယ်မချန် ၊ နာခံသူ ၊ အပြစ်ကျူးလွန်သူ အားလုံးတို့ အပေါ် မေတ္တာဝတ်ရုံ လွှမ်းခြုံပေးဖို့ ကြွမြန်းခဲ့တာပါ။

❖ အလ္လာဟ် အရှင်မြတ်က “ အရှင့်ဘက်တော်မှ စီးဆင်းလာသော မေတ္တာကရုဏာစွမ်းတို့ကြောင့် ကိုယ်တော်ဟာ မိမိအပါးတော်ရှိသူများအပေါ် သက်ညှာ ထောက်ထားနေရခြင်းဖြစ်ပါတယ်။ ကိုယ်တော်သည် ကြမ်းတန်းသောသူ (လူမှု ဆက်ဆံရေး၌)ခက်ထန် ကြမ်းကြုတ်သောသူ ဖြစ်ခဲ့ပါမူ ထိုသူတို့သည် ကိုယ်တော့်အပါးမှ ကစဥ့်ကလျား ထွက်ခွာသွားကြမည်သာ”။ လို့ မိန့်ဆိုထားပါတယ်။ 📖 (အားလေ့အိမ်ရာန်(၃)၊ ၁၅၉)

❖ ကိုယ်တော်မြတ်(ﷺ)ဟာ **ကိုယ် နှုတ် နှလုံး** ဉာဏ်သုံးပါးလုံးနဲ့ လောကတစ်လွှား ကရုဏာပွားဖို့ ဖိတ်ခေါ်ခဲ့ပါတယ်။

❖ကိုယ်တော့်နှလုံးအိမ်မှ အွမ္မသ်ပေါ် မေတ္တာချောင်းတစ်ခု တသွင်သွင် စီးဆင်းလျက်ရှိခဲ့ပါတယ်။

❖ မုဒိတာဝေဖြာလျက်ရှိပါတယ်။ စိတ်ဘဝင်ကို သိမ်းယူနိုင်စွမ်းရှိပါတယ်။ ကိုယ်တော့်ရဲ့ မိန့်ခွန်းတော်များဟာ စိတ်ဝိညာဉ်များအတွက် အမြိုက်ဆေးဖြစ်ပါတယ်။ ကိုယ်တော့်ရဲ့တားမြစ်ချက်၊ အမိန့်ပေးချက်အားလုံးတို့ဟာလည်း ကရုဏာ ပေါ် အခြေခံကာ သိမ်မွေ့ခြင်းနှင့်လွယ်ကူမှုကို ရှေ့ရှုပါတယ်။

❖ အမိန့်ပေးခြင်းတွေဟာလည်း ကျွန်ုပ်တို့ရင်တွင်း မြတ်ကိုယ်တော် အချစ်များ တိုးပွားစေပြီး ကိုယ်တော့်ချစ်စိတ်နဲ့ လိုက်နာချင်စိတ်တွေ အပြည့်ထည့်ပေးပါတယ်။

❖ တားမြစ်ချက်တွေဟာလည်း ပညာသားပါးလွန်းတဲ့အတွက် ရှောင်ကြဉ်လိုစိတ်တွေ ဖြစ်ပေါ်စေပါတယ်။

❖ ကိုယ်တော်မြတ်(ﷺ)ဟာ မိမိအွမ္မသ်အတွက် မဟာကရုဏာ ရှင်ဖြစ်ပါတယ်။

❖ လူသားတို့အပေါ် သက်ညှာထောက်ထား ကရုဏာပွားသူကိုလည်း အရှင်မြတ် ကရုဏာထားပေးဖို့ အောက်ပါအတိုင်း တောင်းဆုပြုပေးခဲ့ပါတယ်။

“အိုအရှင်... ကျွန်တော်မျိုးအွမ္မသ်ရဲ့ အရေးကိစ္စအဝဝကို အပ်နှံခံရသူသည် စာနာထောက်ထားမုဒိတာပွား သူဖြစ်ပါက ယင်းသူကိုလည်း နူးညံ့သိမ်မွေ့စွာ ဆက်ဆံတော်မူပါ။” (မွတ်စ်လင်မ်ကျမ်း)



**ဒေါက်တာ အာအိဗ်အလ်ကရ်နီ၏ ရေးသားချက်အား ကောက်နှုတ်ပြန်ဆိုသည်။**



ရဗီအွလ် အောက်ဝလ်
(၁၂)ရက်နေ့

၁၂ { • စီရသ် (သို့) အစ္စလာမ်နားလည်ရန် အတွက် လိုအပ်ချက်

 ကိုယ်တော်မြတ်(ﷺ)ရဲ့ စီရသ်ဟာ ကျွန်တော်တို့ အစ္စလာမ်ကိုနားလည်ရေးမှာ အရေးပါလှတဲ့ အခန်းကဏ္ဍတစ်ခုပါ။

ကျမ်းမြတ်ကုရ်အာန်ကို စနစ်တကျ နားလည်ဖို့အတွက်လည်း စီရသ်ဟာ အရေးပါလှပါတယ်။

 အနှစ်သာရရှိလှတဲ့ လူနေမှုစနစ်တစ်ခုကိုလည်း ကိုယ်တော့်ရဲ့ အတ္ထုပ္ပတ္တိကို လေ့လာခြင်းနဲ့သာ တည်ဆောက်နိုင်မှာဖြစ်ပါတယ်။

 နှစ်ဘဝအောင်မြင်စေမယ့် ပညာရေးစနစ်ကိုလည်း စီရသ်ရဲ့အရိပ် အာဝါသမှာပဲ တည်ထောင်နိုင်မှာပါ။

အချုပ်ပြောရရင်တော့ လူတစ်ယောက်ရဲ့ လောကီ၊လောကုတ္တရာနှစ်ဌာလုံး အောင်မြင်ဖို့ အာမခံချက်ပေးနိုင်တာ ကိုယ်တော့်ရဲ့ စီရသ်ပါပဲ။

 ကိုယ်တော်(ﷺ)ရဲ့ စီရသ်ဟာ ကျွန်တော်တို့ဘဝအတွက် ရှင်သန်နေတဲ့ စံနမူနာတစ်ခုဖြစ်နေလို့ပါပဲ။

📖 ဒါကြောင့်လည်း အရှင်မြတ်က "အသင်တို့အတွက် အလ္လာဟ့်ရစူလ်တမန်တော်မြတ်ရဲ့ ဘဝမှာ အကောင်းဆုံးသော စံနမူတွေ ရှိနေတယ်"လို့ မိန့်ဆိုထားတာပါ။





ရဗီအွလ် အောက်ဝလ်
(၁၃)ရက်နေ့

၁၃ • မြတ်ကိုယ်တော်ရဲ့ စီရသ်ပြုစုခြင်းသမိုင်း

 စီရသ်ပညာရှင်တွေအနေနဲ့ ကိုယ်တော်မြတ်(ﷺ)ရဲ့ စီရသ်ကို ဘယ်လိုပြုစုခဲ့ကြတာလဲ။

 ဘယ်အချက်တွေကို မှီငြမ်းပြုစုခဲ့ကြတာလဲဆိုတာဟာ မွတ်စ်လင်မ်တိုင်း သိသင့်သိအပ်တဲ့ အရေးကြီးတဲ့ ကဏ္ဍတစ်ခုပါ။

❖ စီရသ်ပညာရှင်တွေဟာ ကိုယ်တော့် စီရသ်ပြုစုရေးမှာ

1 ကျမ်းမြတ်ကုရ်အာန်ကို မှီငြမ်းကြပါတယ်။

 ကျမ်းမြတ်ကုရ်အာန်ထဲမှာ ကိုယ်တော်(ﷺ)ဘဝတစ်ခုလုံးကို ကျစ်လျစ်စွာနဲ့ အကျဉ်းရုံး ဖော်ပြထားတာတွေ့ရှိရပါတယ်။

2 ကိုယ်တော့်အပါးတော်မှာ နေ့၊ ည ခစားခဲ့ကြတဲ့ ဆွဟာဗာ(رضي الله عنهم)တို့ရဲ့ ခိုင်မာတိကျလှတဲ့ ဆင့်ပြန်ချက်များ။

 ဒီဆင့်ပြန်ချက်တွေကို ဟဒီးဆ်ပညာရှင်ကြီးတွေက မိမိတို့ရဲ့ဟဒီးဆ်ကျမ်းများမှာ အတိအလင်းဖော်ပြထားကြပါတယ်။

3 ကိုယ်တော်မြတ်(ﷺ)ရဲ့ စီရသ်(အတ္တူပ္ပတ္တိ၊ ဘဝဖြတ်သန်းပုံ အဝဝ)ကို သီးသန့်စုစည်းတင်ပြကြသည့် စီရသ်ပညာရှင်တို့၏တင်ပြချက်များ။

ထိုပုဂ္ဂိုလ်မွန်များတွင် ဆွဟာဗာများ၊ ထို့နောက် သာဗေ့အီများ၊ ထိုသာဗေ့အီကြီးတို့ရဲ့ ခေတ်အဆက်ဆက် တပည့်တပန်းများ....

သမိုင်းအထောက်အထားများအရ ပထမဆုံး ကိုယ်တော့်စီရသ်ကိုရေးသား ပြုစုခဲ့သူမှာ.......

 **အုရ်ဝဟ်ဗင်န် ဇိုင်ဗိုင်ရ် (رضي الله عنه)(ဟာဇ်ဂျ်ရီ -၉၂ကွယ်လွန်) ဖြစ်ပါတယ်။**

 **ထို့နောက် အဗားန်ဗင်န် အွတ်ဆ်မားန်(رضي الله عنه)ဟာဇ်ဂျ်ရီ - ၁၀၅ ကွယ်လွန်)**

 **ထို့နောက် ဝဟာဗ်ဗင်န် မိုနဗ်ဗေ့ဟ်(رضي الله عنه) (ဟာဇ်ဂျ်ရီ -၁၁၀ကွယ်လွန်)**

 **ထို့နောက် ရှုရဟ်ဗီးလ်ဗင်န် စအဒ် (رضي الله عنه) (ဟာဇ်ဂျ်ရီ - ၁၂၃ကွယ်လွန်)**

 **ထို့နောက် မုဟမ္မဒ်ဗင်န်ရှေ့ဟားဗ် အဇ်ဇုဟ်ရီ(رضي الله عنه) (ဟာဇ်ဂျ်ရီ - ၁၂၄ ကွယ် လွန်)တို့ ဖြစ်ကြပါတယ်။**



အထက်မှာဖော်ပြခဲ့တဲ့ကျမ်းတွေမှာ စုစည်းထားတဲ့အချက်အလက်တွေကို စီရသ်ပါရဂူကြီး အေမာမ် မုဟမ္မဒ် ဗင်န် အိစ်ဟားက် ) ﴿رحمه الله﴾ (ဟစ်ဂျ်ရီ – ၁၅၂ ကွယ်လွန်)က စုစည်းတင်ပြခဲ့ပါတယ်။



ပညာ့ရှင်အများစုက အေမာမ် အိဗ်နေ့ အိစ်ဟားက်﴿رحمه الله﴾ရဲ့ တင်ပြချက်တွေဟာ ကိုယ်တော့်စီရသ်ရဲ့ကဏ္ဍမှာ အပြည့်စုံဆုံးဖြစ်ကြောင်း ထောက်ခံချက် ပေးထားကြပါတယ်။

☞သို့သော်လည်း နှစ်(၅၀)ခန့်ကြာပြီးနောက်ပိုင်း ပွင့်ပေါ်လာခဲ့တဲ့ အေမာမ် အိဗ်နေ့ဟေ့ရှားမ် (ဟစ်ဂျ်ရီ–၂၁၈ ကွယ်လွန်) ﴿رحمه الله﴾က အေမာမ်အိဗ်နေ့ အိစ်ဟားက်﴿رحمه الله﴾ရဲ့ စီရသ်ဆိုင်ရာ စုစည်းတင်ပြချက်တွေကို စနစ်တကျ စိစစ်ကာ ကျစ်လျစ်ခိုင်ခိုင်မာစွာနဲ့ မှီငြမ်းကျမ်း တစ်စောင်ကို ပြုစုပေးခဲ့ပါ တယ်။

📖 သခင်ရဲ့ကျမ်းဟာ سيرة ابن هشام အမည်နဲ့ ကျော်ကြား လူသိများခဲ့ပါ တယ်။ သခင်ကြီးနောက် စီရသ်နဲ့ပတ်သက်ပြီး ရေးသားပြုစုကြတဲ့ ပညာရှင် တိုင်းဟာ သခင်ကြီးရဲ့ ကျမ်းကို အဓိက မှီငြမ်းကျမ်းအဖြစ် လက်ခံခဲ့ကြပြီး အထူးမှီငြမ်းခဲ့ကြပါတယ်။



**Dr မုဟမ္မဒ် စအီးဒ် ရမသြွာန် အလ်ဘူသို သခင်ကြီးရဲ့ စီရသ်ဆိုင်ရာ ရေးသားချက်များမှ ကောက်နှုတ်ပြန်ဆိုသည်။**



ရဗီအွလ် အောက်ဝလ်
(၁၄)ရက်နေ့

## ၁၄ • မြတ်ကိုယ်တော် အတွက် စာပန်းချီ

 မြတ်ကိုယ်တော်ရဲ့ ရုပ်ပုံလည်းမရှိပါဘူး။

 ကားချပ်လည်း မရှိပါဘူး။

 ဓါတ်ပုံလည်း မရှိပါဘူး။ ရုပ်တုလည်း မရှိပါဘူး။

**ဘာကြောင့်လဲ.....?**

အကြောင်းတရားတွေ အများကြီးပါ....

 ရှရီအသ်က ခွင့်ပြုမထားလို့ပါ။

 ကိုယ်တော်(ﷺ)ရဲ့ ရုပ်ဆင်းအင်္ဂါတော်ကို ရေးဆွဲတင်ပြဖို့ ဘယ်သူမှလည်း မစွမ်းနိုင်ကြလို့ပါ။

 မြတ်ကိုယ်တော်ရဲ့ အလှတရားတွေကို မျက်ဝန်းထဲမှာပဲ သိမ်းဆည်းထား ခြင်းမဟုတ်ဘဲ နှလုံးအိမ်ထဲမှာ သိမ်းထားစေချင်လို့ပါ။

 အေမာမ်ကုရ်သူဗီ သခင်က "ရစူလ် ကိုယ်တော်မြတ်(ﷺ)ရဲ့ အလှအပကို အပြည့်ဖော်ပြလိုက်ရင် လူတွေဟာ ကိုယ်တော်(ﷺ)ကို ကြည့်နိုင်စွမ်းပင် ရှိတော့မှာ မဟုတ်ပါ" လို့ မိန့်ဆိုထားပါတယ်။

 ဒါပေမယ့်လည်း ဆွဟာဗာသာဝကြီးတွေက မိမိတို့ရဲ့ အစွမ်းအစနဲ့ ကိုယ်တော်(ﷺ)နဲ့ပတ်သက်သမျှတို့ကို အသေးစိတ်၊ တိတိကျကျ၊ တိတိပပ၊ မိမိရရ မှတ်တမ်းတင်ကာ လက်ဆင့်ကမ်းထားခဲ့တာကတော့ ကျေးဇူးတစ်ရပ်ပါပဲ။

 ဆွဟာဗာကြီးတွေရဲ့ ကိုယ်တော်(ﷺ)နဲ့ ပတ်သက်တဲ့ စာပန်းချီ ချယ်မှုန်းချက်တွေကို အေမာမ်သိရ်မေ့ဇီ(ﷺ)သခင်က မိမိရဲ့ ဂျာမေ့အ်သိရ်မေ့ဇီ ကျမ်းမှာ الشمائل المحمدية (မြတ်နဗီ(ﷺ)ရဲ့နာမ်ပိုင်းဆိုင်ရာ သန္တာန် နဲ့ရုပ်ပိုင်းဆိုင်ရာ အလှဆင်း သဏ္ဍာန်) ဆိုတဲ့ ခေါင်းစဉ်နဲ့ တင်ပြခဲ့ပါတယ်။

 သခင်ကြီးက ဟဒီးဆ်တော်ပေါင်း (400)ကျော်ကို ရွေးချယ်ပြီး အခန်း ကဏ္ဍပေါင်း (၅၄)ခန်းနဲ့ ပြုစုလိုက်ပါတယ်။

 ဆက်ရန်.....

**ဟာဇရသ် ရှိုင်ခ် မော်လာနာ ဇကရိယာ(ﷺ)သခင်ကြီးရဲ့ *خصائل نبوی* ကျမ်းကို မှီငြမ်း တင်ပြသည်။**



ရဗီအွလ် အောက်ဝလ်
{၁၅}ရက်နေ့

## ၁၅ • ကိုယ်တော့် အလှ စားပန်းချီ ပြတိုက်

 မြတ်ကိုယ်တော်{ﷺ}ရဲ့ ကာယအလှ၊ မနောအလှ၊ ဉာဏ အလှ၊ မိတ္တအလှ၊ စာရိတ္တအလှ၊ ဘောဂအလှ အစရှိတဲ့ အလှဆုံကို တင်ပြဖို့အတွက် သုခဘုံရဲ့ လိုတရ ကလောင်စွမ်းလိုမယ်ထင်ပါတယ်။

 လောကရဲ့ ကလောင်နဲ့ကတော့ ကိုယ်တော့် အလှပင်လယ်ထဲက အလှတစ်စက်လောက်ကိုပဲ ဖော်ပြနိုင်မယ် ထင်ပါရဲ့....

 ကာယဗလ ပြတိုက်

 အနတ်စ်{رضي الله عنه}သခင်ဟာ ကိုယ်တော်သခင့်ကို (၁၀)စုနှစ်တစ်ခု မကအနီးကပ် ပြုစုခွင့်ရရှိခဲ့သူပါ။ ကိုယ်တော့်ရဲ့ ကာယအလှကို သခင်ကြီးက အခုလို တင်ပြထားပါတယ်။

"ကိုယ်တော်မြတ်{ﷺ}ဟာ အရပ်အမောင်း ပြေပြစ်သူ ဖြစ်ပါတယ်။ ကိုယ်တော့်ရဲ့ အသားအရောင်ဟာလည်း လရောင်နမ်းတဲ့ရွှေပန်း လေးများသဖွယ် ဝင်းပနေပါတယ်။ ဆံနွယ်များမှာ ကျော့နေပြီး လှိုင်းထနေပါတယ်။ ဦးခေါင်းတော်နှင့် မုတ်ဆိတ် တော်မှာ ဆံကေသာဖြူ {၁၀} ပင်ခန့်သာရှိပါတယ်။"

 ဗရာအ်ဗင်န် အာဇိဗ်(ﷺ)ဟာ ကိုယ်တော့်အလှဗိမ္မာန်ကို ရက်ရှည် လများ သုတေသနပြုခဲ့သည့် ဆွဟာဗာကြီးတစ်ဦးဖြစ်ပါတယ်။ သခင်က ကိုယ်တော့်အလှကို အခုလို ဖော်ကြူးထပါတယ်။

 " ကိုယ်တော်မြတ်(ﷺ)ရဲ့ ရင်တော်ဟာ ခန့်ညား ကျယ်ဝန်းလှ ပါတယ်။ လပြည့်ညမှာ လှချင်တိုင်း လှနေတဲ့ လမင်းစန္ဒာကြီးထက် မြတ်ကိုယ်တော်က ပိုမိုလှပါတယ်တဲ့။"

##  **အလီ(ﷺ)ထက် ကိုယ်တော့်အလှကို ဘယ်သူသိနိုင်အုံးမှာလဲ။**

သခင်ကြီးက **"**ကိုယ်တော်(ﷺ)ရဲ့လက်ဖဝါးတော်နဲ့ ခြေဖမိုး နှစ်ဖက်မှာ အသားရည်ပြည့်မောက် နေပါတယ်။ ကိုယ်တော်ရဲ့ ဦးခေါင်းတော်မှာ ခန့်ညားပြီး အစိတ်အပိုင်းတိုင်း၏အချိုး အဆစ်များမှာလည်း ပသာဒရှိသည်။ ကိုယ်တော်(ﷺ)ရဲ့ အသားရောင်မှာလည်း ပန်းနုရောင်သန်းနေ ပါတယ်။ မျက်လုံးတော်မှာ ပုလဲနဲ့မဟူရာ ပေါင်းစပ်ထားသည့်နှယ် ။ ရင်ဘတ်တော်မှချက်ထိ ပါးလွှာသော အမွေးအမျှင်တန်းများ သွယ် တန်းနေပါတယ်။ကိုယ်တော်(ﷺ)ရဲ့ သွားတော်များမှာလည်း ဖြူစင်ဝင်းပနေပါ တယ်။**"**

ဆက်လက်ပြီး အလီ(ﷺ)သခင်က**"**ကျွန်ုပ်ဟာ ကိုယ်တော်မြတ်(ﷺ) ကဲ့သို့ မည်သူကိုမျှ ကိုယ်တော့်အလျှင်လည်း မတွေ့ခဲ့ဖူးပါ။ ကိုယ်တော့်နောက်ပိုင်းတွင်လည်း မတွေ့ခဲ့ပါ။"လို့ မှတ်ချက်ပြုခဲ့ပါတယ်။

 ကိုယ်တော့်အလှဝိသေသများကို ကွယ်လွန်သူ မော်လာနာမုဟမ္မဒ် အလီ(အလ်ကောင်ဆရီ-ချောက်)(ﷺ)က အောက်ပါအတိုင်း စပ်ဆိုခဲ့ပါတယ်။

 နဗီရဲ့အလှ ဝိသေသ



### နဗီရဲ့ အလှတရား

ဝင့်ကြွားကာပုံဖော်
ခက်ဆစ်တွေ ရေလိုသုံး
ကာရံတွေလည်း ပုန်းလျှို
အဆုံးဆိုတာ ဘယ်မရှိ
ပကတိ ကင်းစင်ပါ့။...



### ရုပ်အဆင်းပုံသဏ္ဍာန်

ကိုယ်နေဟန်ရဲ့ ပုံစံရိုး
မတိုးမလျော့ဘဲ ညီညာ
ကြည့်မိသူ ရင်မှာငြိ
ပသာဒရှိတဲ့ အလှ...



### ဆံတော်မှာ နက်မှောင်

လှိုင်းထသယောင်ထင်ရ

ကေသာအလှ တစ်ဖုံ

မျက်ဝန်းတစ်စုံ သဏ္ဍာန်

ဝတ်ဆံရယ် မည်းနက်

မျက်အိမ်မှာ ဖြူဖွေး

ရင်အေးတဲ့ အလှ...



## ဦးခေါင်းတော် ခန့်ညား

လက်၊ခြေဖဝါးမှာ ပြန့်ကျယ်

ရန်သူရယ် လန့်ခဲ့ကြ

လက်ရုံးရည် အလှ...



## လမ်းလျှောက်တဲ့ သူ့အသွင်

မြင့်ရာက နိမ့်ဆင်းထင်ရ

မြင်ရသူ ရှိန်ကြပြန်

စိတ်မှန်ကို တွေ့သူဘဝင်ခွေ့

သူ့စကားကို ရင်ခွင်ပွေ့ကြ

စာရိတ္တ အလှ...



## အဆင်း အချင်းရယ်ပြည့်ဝ

အာဝဇ္ဇန်း ရှင်ကြည်မြရယ်

ကျော အလယ်လက်ပြင်တော်ကြား

တစ်ပါးရှင် တံဆိပ်ကပ်ခဲ့

ရင်အေးတဲ့ အလှ...



**ဘယ်လိုပင် ပုံဖော်ကျူး**

နမိရဲ့ အလှထူးကိုဖြင့်

လည်ဝင့်လို့ မယှဉ်နိုင်

ကလောင်လည်း ငိုင်ခဲ့ရတယ်။





ရဗီအွလ် အောက်ဝလ်
(၁၆)ရက်နေ့

၁၆ • အလှထက် လှသောကိုယ်တော် မြတ်(ﷺ)

❖ မနေ့က မြတ်ကိုယ်တော်ရဲ့ ကာယအလှမှ ပုံရိပ်အချို့ကို ဆွဲထုတ်ပြသခွင့် ရခဲ့ပါတယ်။

 ဒီနေ့ဆက်လက်ပြီး မြတ်ကိုယ်တော်ရဲ့မနောအလှမှ အနည်းငယ်တင်ပြဖို့ ကြိုးစားကြည့်ပါမယ်။

 ***မနောအလှ***

 ကိုယ်တော်မြတ်(ﷺ)ဟာ လောကတစ်ခွင်လုံးမှာ မနောအလှ ကြွယ်ဝသူဖြစ်ပါတယ်။

❖ မိမိကိုယ်ကို နှိမ့်ချ ကျိုးငဲ့စွာနေထိုင်ခြင်းဟာ မနောအလှရဲ့ ပထမဆုံး လေ့ခါးထစ်လို့ ပြောလိုပါတယ်။

 ကိုယ်တော်မြတ်(ﷺ)က ဆွဟာဗာတို့ကို "ငါ့အား အလ္လာဟ် အရှင်မြတ်ရဲ့ရစူလ်၊ အရှင်ရဲ့ဗန္ဒာဟ်တစ်ဦး"လို့သာ ခေါ်ဆိုဖို့ မိန့်ကြားခဲ့ပါ တယ်။

❖ ခရီးတစ်ခုမှာ ဆိတ်တစ်ကောင်ချက်ပြုတ်ဖို့ ဆွဟာဗာကြီးတွေက တာဝန်ကိုယ်စီ ခွဲယူကြတဲ့ အခါ မြတ်နဗီ(ﷺ)က"ငါကိုယ်တော်ကတော့ ထင်းခွေတဲ့ တာဝန်ယူလိုက်မယ်လို့" မိန့်ကြားခဲ့ပါတယ်။ အပါးတော်မှာရှိတဲ့ ဆွဟာဗာ

အပေါင်းက တားမြစ်သော်လည်း ကိုယ်တော်(ﷺ)က “အသင်တို့ထက်တမူ ထူးပြီး အခန့်သား ထိုင်နေတာမျိုးကို ငါကိုယ်တော် လည်းမနှစ်သက်၊ အရှင်မြတ်လည်း နှစ်သက်မှာ မဟုတ်”လို့ မိန့်ကြားခဲ့ပါ တယ်။

အနတ်စ်(رضي الله عنه)သခင်က အောက်ပါအတိုင်း ဆင့်ပြန်ထားပါတယ်။ **“**ကိုယ်တော်ဟာ သူဆင်းရဲကျေးကျွန်တို့ရဲ့ဖိတ်ကြားမှုတွေကိုပါ လက်ခံတော်မူလေ့ရှိပါတယ်။ ၎င်းတို့ရဲ့ ဂျနာဇာမှာလည်း ပါဝင်လေ့ရှိပါတယ်။**”**

 **“**ကိုယ်တော်(ﷺ)ကွယ်မြန်းလာချိန် မတ်တပ်ရပ်ခြင်းကို ခွင့်မပြုခဲ့။**”**

 “ကိုယ်တော်(ﷺ)ဟာ အညံ့စား အစီးအနင်းများပေါ်တွင်လည်း စီးနင်းလိုက်ပါလေ့ရှိပါတယ်။”

အလီ(رضي الله عنه)သခင်က “ကိုယ်တော်မြတ်(ﷺ)ဟာ မိမိရဲ့ တနေ့တာကို (၃)ပိုင်းခွဲထားပါတယ်။ တစ်ပိုင်းကတော့ အိမ်သူအိမ်သားတွေရဲ့ တာဝန်ဝတ္တရားတွေ အကောင်အထည်ဖော်ဖို့၊ (သူတို့နဲ့အတူ စကားစမြည်ပြောဖို့၊ သူတို့ထဲမှာ ပျော် ရွှင်မှုတွေကူးစက်ပေးဖို့၊ သူတို့ရဲ့ အခြေအနေတွေ စုံစမ်းဖို့)ဖြစ်ပါတယ်။

ဆက်လက်ပြီး အလီ(رضي الله عنه)သခင်က “ကိုယ်တော်ဟာ အမြဲတစေ ပြုံးရွှင်နေပြီး စာရိတ္တမွန်မြတ်သူဖြစ်ပါတယ်။ စိတ်နူးညံ့သိမ်မွေ့သူဖြစ်ပြီး၊ အပြောအဆို ကြမ်းတမ်းခက်ထန်သူမဟုတ်၊ စိတ်ခါတ်မာကျောသူလည်း မဟုတ်၊

အသံကျယ်လောင်စွာ ပြောဆိုသည့် အကျင့်အမူ မရှိသည့်အပြင် မဖွယ်မရာ သော စကားများကိုလည်း ပြောဆိုလေ့ မရှိကြောင်း၊ တစ်ဦး တစ်ယောက်အား အပြစ်ရှာကြံသူ မဟုတ်ကြောင်း၊ လွန်စွာ ပျက်ရယ်ပြုသူ၊ စေးနဲတွန့်တိုသူမ ဟုတ်ကြောင်း ပြောကြားခဲ့ပါတယ်။”

“ကိုယ်တော်﴾ﷺ﴿ဟာ ခိုက်ရန်ပြုခြင်း၊ မာနာထားခြင်းနှင့် အလဟ သစကားများ ပြောဆိုခြင်းတို့ကို ကိုယ်တိုင်လည်း ရှောင်ပြီး အခြား သူများကို လည်း ရှောင်ရှားစေခဲ့ပါတယ်။”

မိခင်မွန် အာအေ့ရှာ﴾رضي الله عنها﴿သခင်မကြီးက **“**ကိုယ်တော်မြတ်﴾ﷺ﴿ဟာ အိမ်ရောက်လာလျှင်လည်း သာမန်လူတစ်ဦးအဖြစ်ပဲ နေထိုင်ပါ တယ်။ အဝတ် အစားလျှော်ဖွတ်ခြင်း၊ အဝတ်အစားချုပ်လုပ်ခြင်း၊ ဖာထေးခြင်း၊ တံမြက်စည်း လှည်းခြင်းတို့ကိုလည်း ကိုယ်တိုင်ဆောင်ရွက်လေ့ရှိကြောင်း” ၊ ကိုယ်တော် ﴾ﷺ﴿ဟာ မိမိအတွက် ဘယ်သောအခါမှ ကလဲ့စား ချေလေ့မရှိကြောင်း၊ မဖွယ် မရာသော စကားများကို ပြောဆိုသည့် အလေ့ အထပင်မရှိကြောင်း၊ စော်ကား သူကိုလည်း ပြန်လည် တုန့်ပြန်လေ့မရှိဘဲ ခွင့်လွှတ်တော်မူလေ့ရှိပြီး လူများ အကြား ပြန်လည်တင်ပြလေ့မရှိကြောင်း ဆင့်ပြန်ခဲ့ပါတယ်။**”**

ဇိုင်ဒ်ဗင်န် ဆာဗိသ်﴾رضي الله عنه﴿သခင်က “ကိုယ်တော်မြတ်﴾ﷺ﴿ဟာ ကျွန်ုပ် တို့နဲ့အတူ အလွန်ဖော်ရွေစွာ ဆက်ဆံတော်မူပါတယ်”လို့ ပြော ကြားခဲ့ပါ တယ်။

အနတ်စ်(رضي الله عنه)သခင်က "ကျွန်တော်ဟာ ကိုယ်တော်မြတ်(ﷺ)ကို (၁၀) နှစ်တိုင်တိုင် ပြုစုခဲ့ပါတယ်။ ကိုယ်တော်ဟာ ဘယ်ကိစ္စနဲ့ ပတ်သက်ပြီးမှ ကျွန်တော့်ကို အပြစ်မဆိုခဲ့ပါ။ ကိုယ်တော်သခင်(ﷺ)ဟာ လောကတစ်ခွင်လုံးထက် အကျင့်စာရိတ္တအားဖြင့် သာပိုမြင့်မြတ်သူဖြစ်ပါတယ်။" လို့ မိန့်ကြားခဲ့ပါတယ်။

အမရ်ဗင်န်အားစ်(رضي الله عنه)သခင်က "ကိုယ်တော်မြတ်(ﷺ)ဟာ သိမ်ဖျင်းသော ပုဂ္ဂိုလ်ကိုလည်း နှစ်သိမ့်သောအားဖြင့် ဂရုပြုစွာ ပြောဆို ဆက်ဆံတော်မူခဲ့ပါတယ်။ ထိုပုဂ္ဂိုလ်ကိုယ်တိုင်က သူဟာ ကိုယ်တော့်ထံမှာ အထူးမြတ်ဆုံး (VIP)လို့တောင် ထင်မှတ်သွားလေ့ရှိပါတယ်။"လို့ မိန့်ကြားခဲ့ပါ တယ်။

➤ ဒီလို မနေ့အလှကြွယ်ဝလှတဲ့ နဗီကြီးရဲ့ အွမ္မသီတစ်ယောက်ဖြစ်ရတာ မိမိကိုယ်ကို ဂုဏ်ယူလိုက်စမ်းပါ......

**ဟဒီးဆ်တော်များကိုတင်ပြရာတွင်** *خصائل نبوی* **ကျမ်းကို မှီငြမ်းသည်။**





ရဗီအွလ် အောက်ဝလ်
(၁၇)ရက်နေ့

၁၇ { • ကိုယ်တော် မြတ်(ﷺ)ရဲ့ ဉာဏအလှ

ကျွန်ုပ်တို့လူသားတွေဟာ အခြားအဖန်ဆင်းခံတွေထက် သာမြတ်ပါတယ်။ တမူထူးခြားပါတယ်။ **ဘာကြောင့်လဲ....?**

**အရှင်မြတ်ချီးမြှင့်ထားတဲ့ အသိဉာဏ်ကြောင့်ပါ။**

သာမန်လူတစ်ယောက်တောင် ဒီလောက်ထူးခြားနေရင် အရှင်မြတ်ရွေးချယ်ထားတဲ့ ရစူလ်တမန်တော်၊ အရှင်မြတ်က ကိစ္စတိုင်းကို ကောင်းကင်ကနေ တိုက်ရိုက်ဝဟီနဲ့ လမ်းညွှန်ချက်တွေပေးခံရတဲ့ ကိုယ်တော်(ﷺ)ဟာအဘယ်မျှ ဉာဏ်ရည် ထက်မြက်လိုက်မလဲ....?

 အတွေးကမ္ဘာ အပြင်ဖက်က သဘာဝလွန် ကိစ္စလို့ပဲ နားလည်ရပါမယ်။

ဒါ့ကြောင့်လည်း အစ္စလာမ့်သုခမိန်ကြီး ကာဇ္ဇီအေ့ယားဇ္(ရ)သခင်က “ကိုယ်တော်(ﷺ)ရဲ့ ဉာဏအလှ၊ အသိဉာဏ်ထက်မြက်မှုနဲ့ ပတ်သက်ပြီးစီရည် စာမျက်နှာတွေကို ဖွင့်ပြပြောဆိုရရင်တော့ ကိုယ်တော်ဟာ တစ်လောကလုံးထက် အသိဉာဏ်ထက်မြက်တော်မူတယ်ဆိုတာ သံသယမရှိပါဘူး” လို့ရေးသားခဲ့ပါတယ်။

 ဝဟာဗ်ဗင်န် မိုနဗ်ဗိုဟ်(رحمه الله)သခင်က **"**ကျွန်တော်ဟာ စာအုပ်ပေါင်း (71)အုပ်မှာ လေ့လာပြီး တွေ့ရှိလိုက်ရတာက ကိုယ်တော်(ﷺ)ဟာ ဉာဏ်ရည် အထက်မြက်ဆုံးနဲ့ အတွေးအမြင်မှာလည်း အသာဆုံး ဆိုတာ ပဲဖြစ်ပါတယ်။ တစ်လောကသားလုံးချီးမြှင့်ခံထားရတဲ့ ဉာဏ်ရည်ဟာ ကိုယ်တော်(ﷺ)ရဲ့ ဉာဏ်ရည်နဲ့ ယှဉ်လိုက်ရင် မြူမှုန့်တစ်မှုန့်ခန့်ပါပဲ**"** လို့ မိန့်ကြားခဲ့ပါတယ်။

ကိုယ်တော်မြတ်(ﷺ)မိန့်ကြားခဲ့တဲ့ ဟဒီးဆ်တော်တွေဟာ ကိုယ်တော်(ﷺ)ရဲ့ ဉာဏ်ရည် ထက်မြက်မှုကို သက်သေထူနေပါ တယ်။

➢ အမြဲ ခေတ်မီနေတဲ့ မိန့်ကြားချက်တွေ။ ခေတ်ရှေ့ပြေးရုံတင်မကဘဲ တမလွန်ရဲ့ အောင်မြင်မှုအတွက်ပါ အာမခံချက်ပေးနိုင်တဲ့ မိန့်ကြားချက်တွေပါ။

 ဒါကြောင့်လည်း အရှင်မြတ်က "အသင်တို့ထံ ရစူလ်တမန်တော် ယူဆောင်လာသမျှကို လိုက်နာကြ၊ ရစူလ်တမန်တော် တားမြစ်ထားသမျှကို ရှောင်ကြဉ်ကြလို့" မိန့်ကြားခဲ့တာပါ။

ကိုယ်တော်(ﷺ)ရဲ့ ပြုမူဆောင်ရွက်ချက်တွေ၊ ဆုံးဖြတ်ချက် တွေဟာလည်း ဉာဏ်တော် ကွန့်မြူး ထူးခြားလွန်းလှပါတယ်။

 ကိုရိုင်းရှ်လူမျိုးတို့ ကအ်ဗဟ်ကျောင်းတော်ကို ပြန်လည်မွမ်းမံတည်ဆောက်ပြီးချိန် ဟဂ်ျရေ့အတ်စ်ဝဒ် (ကျောက်နက်တော်)ကို နေရာတကျ ထားရေးမှာ ဆုံးဖြတ်မရဖြစ်နေခဲ့ပါတယ်။ တုတ်ကိုင်ဓါးဆွဲ အဆင့်ထိရောက်ခါနီး

ချိန်၊ သွေးချောင်းစီးတိုက်ပွဲများ ဖြစ်လု နီးချိန်မှာပဲ ကိုယ်တော်မြတ်﴾ﷺ﴿ရဲ့သမိုင်းဝင်ဆုံးဖြတ်ချက်ကြောင့်ပဲ ဘေးမသီရန်မခကြဘဲ ပြဿနာမီးများ ငြိမ်းအေးသွားခဲ့ရပါတယ်။

စောင်တစ်ထည်ယူလာစေပြီး ကျောက်နက်တော်ကို ဒီစောင်ပေါ် တင်စေ လိုက်ပါတယ်။ မျိုးနွယ်စုတိုင်းက ကိုယ်စားလှယ်တိုင်းကို စောင်ရဲ့ အစတစ်ခုကို ကိုင်စေပြီး ကျောက်နက်တော်ရှိရာထိ သယ်ဆောင်သွားခဲ့ပါတယ်။

နောက်ဆုံး အားလုံးရဲ့ ကျေနပ်မှုနဲ့ ကိုယ်တော်ဟာ မိမိရွှေလက်တော်နဲ့ ကျောက်နက်တော်ကို နေရာတကျ ထားပေးခဲ့ပါတယ်။ ကိုယ်တော်﴾ﷺ﴿ရဲ့ ဉာဏအလှတွေကို ကုန်စင်အောင် ဘယ်သူများ ရေးသားနိုင်မှာလဲ....? လက်မှိုင်တွေချပြီး ကလောင်တွေ ငိုင်ကုန် ရတာပါ။

ဒါကြောင့်လည်း ကျေးဇူးရှင် ဆရာသခင်ကြီး မော်လာနာ မန်ဇူးရ် နုအ်မာနီ﴾رحمه الله﴿က “ကိုယ်တော်﴾ﷺ﴿ဟာ မဒီနာသက်တမ်း (၁၀)နှစ် တာကို ဉာဏစွမ်းရည်နဲ့ တည်ဆောက်ခဲ့တာပါ။”လို့ မှတ်ချက်ပြုခဲ့တာပေါ့....။

ဉာဏစွမ်းရည်တွေနဲ့ မဒီနာမြို့တော်ကြီးကို အလှဆင်ခြင်းမှသည် ကျွန်ုပ်တို့ကို နှစ်ဘဝအလှနဲ့ ဆင်မြန်းပေးခဲ့တဲ့ ကိုယ်တော်﴾ﷺ﴿ပါ။





ရဗီအွလ် အောက်ဝလ်
(၁၈)ရက်နေ့

၁၈ • မုဟမ္မဒ်(ﷺ)(သို့) အောင်မြင်သော စီးပွားရေးဗိသုကာ

စီးပွားရေးဆိုင်ရာ ခေါင်းပုံဖြတ်မှုတွေ၊ အတိုးအညွှန့်တွေကြီးစိုးနေတဲ့ ခေတ်ကာလကြီးမှာ ကိုယ်တော်မြတ် မုဟမ္မဒ်(ﷺ)ဟာ မွေးဖွားခဲ့တာပါ။

စီးပွားရှာရာမှာ သမာအာဇီဝကင်းမဲ့လွန်းတဲ့ လူ့ပတ်ဝန်းကျင်ကြီးမှာ ကြီးပြင်းလာခဲ့ရတာပါ။

ကိုယ်ရှာသလောက်ကိုယ်ရ၊ ကိုယ့်အိပ်ကပ်ပြည့်ဖို့ သူများမျက်ရည်စတွေကို ဥပက္ခာပြုပြီး၊ ဆင်းရဲနွမ်းပါးသူတွေကို ချနင်းတဲ့ ခေတ်ဆိုးကြီးနဲ့ ကြုံဆုံခဲ့ရတာပါ။

သို့ပေမယ့်လည်း ဒီစနစ်ဆိုးတွေ၊ ခေတ်ဆိုးတွေကို ကိုယ်တော်မြတ်(ﷺ)က ဘယ်လို တွန်းလှန်ခဲ့သလဲ....?

မဟာဗျူဟာမြောက် ပြောင်းလဲပစ်ခဲ့သလဲ...? ဆိုတဲ့ အခန်းကဏ္ဍတွေကိုတော့ ကိုယ်တော်(ﷺ)ရဲ့ အွမ္မသီ တစ်ယောက်အနေနဲ့ သိရှိ ဂုဏ်ယူသင့် ပါတယ်။

 ကိုယ်တော်(ﷺ)ရဲ့ စီးပွားရေးခရီးစဉ်ဟာ သက်တော် (၆)နှစ် ကတည်းက စတင်ခဲ့တာပါ။ ဘကြီးတော် အဗူသွာလိဗ်နဲ့အတူ ဆီးရီးယားဘက်ကို ကူးသန်းရောင်း ဝယ်ရေးအတွက် ထွက်ခဲ့တဲ့ ခရီးစဉ်ပေါ့....။

 သက်တော်(၂၅)နှစ်ခန့်မှာ ခဒီဂျာသခင်မကြီးနဲ့ အကျိုးတူ ပူးပေါင်း လုပ်ကိုင်တဲ့ စီးပွားရေးခရီးစဉ်လည်းရှိခဲ့ပါတယ်။ ဒီခရီးစဉ်မှာ ကိုယ်တော်မြတ်(ﷺ)ဟာ မိမိရဲ့ စံပြစီးပွားရေးဆိုင်ရာ စီမံခန့်ခွဲမှုစွမ်းရည်နဲ့ ခဒီဂျာသခင်မကြီးကို နှစ်ဆမြတ်စွန်းစေခဲ့ပါ တယ်။ နှစ်သီးစားစေတဲ့ သဘောပေါ့။

မက္ကာဟ်မြို့က ကုန်ပစ္စည်းတွေကို ဆီးရီးယားနိုင်ငံမှာ ရောင်းချပြီး အမြတ်အစွန်းတွေရရှိစေခဲ့တဲ့အပြင်၊ ဆီးရီးယားနိုင်ငံကနေလည်း မက္ကာဟ်မြို့မှာ ပြန်လည်ရောင်းချဖို့ ကုန်ပစ္စည်းတွေ ပြန်သယ်လာခဲ့ရာမှာ နှစ်ဆမြတ်စွန်းခဲ့တာပါ။

သက်တော် (၄၀)ပြည့်ပြီး နဗီဘွဲ့ထူးချီးမြှင့်ခြင်းခံခဲ့ရတဲ့ အချိန်ကနေစပြီး လူသားထု တစ်ရပ်လုံးအတွက် တန်ဖိုးမဖြတ်နိုင်တဲ့ စီးပွားရေးဆိုင်ရာ မဟာဗျူဟာတွေ (Business Strategy) ၊ Guideline တွေချပြပေးခဲ့ပါတယ်။

 ကိုယ်တော်(ﷺ)ချပြပေးတဲ့ Economic principles (စီးပွားရေးဆိုင်ရာ မူဝါဒတွေဟာ) ကမ္ဘာတည်သရွေ့ အရှုံးမရှိတဲ့ စီးပွားရေး စနစ်တွေပါပဲ။

 ဒီစနစ်ရဲ့ အခြေခံ မူတွေကတော့ ကြိုးစားရမယ်၊ ရိုးသားရမယ်၊ အမှန်တရားကို မြတ်နိုးရမယ်၊ သစ္စာရှိရမယ်၊ သမာဓိရှိရမယ်၊ လည့်ဖြားခြင်း ကင်းရမယ်၊ နှစ်ဦးနှစ်ဖက် ကျေနပ်မှုရှိရမယ်၊ ခေါင်းပုံဖြတ် ဂုတ်သွေးစုပ်ခြင်း မရှိစေရ .... ဆိုတဲ့ အချက်တွေပါပဲ။

 **ဒီစီးပွားရေးစနစ်ကို လိုက်နာသူဟာလည်း အောင်မြင်မယ်။**

ဒီအောင်မြင်မှုအသီးအပွင့်တွေ ကိုလည်း လူ့ပတ်ဝန်းကျင်ကြီးတစ်ခုလုံးက ဝိုင်းဝန်းခံစားနိုင်မယ့် စနစ်တစ်ခုကိုပါ ထပ်မံ ချပြပေးခဲ့တာပါ။

 စီးပွားရေးလုပ်ငန်းရှင်ကြီးတွေကို မင်းတို့ရှာသမျှ မင်းတို့ပိုင်ဆိုင်တာပဲ။

 မိမိရှာဖွေထားသမျှထဲကနေ (၄၀)ပုံတစ်ပုံလေးကိုတော့ မင်းတို့ရဲ့ နွမ်းပါးတဲ့ ညီနောင်တွေအတွက် ဖယ်ထားဖို့ လမ်းညွှန်ပါတယ်။ (တစ်ရာကျပ်ထဲမှ နှစ်ကျပ်ခွဲပါ) ဒါကို ဇကားသ်စနစ်ဆိုပြီး ပြဋ္ဌာန်းပေးလိုက်ပါတယ်။

👉 လုပ်ရည်ကိုင်ရည်ရှိတဲ့ ဆွဟာဘီတစ်ပါးက အလုပ်မလုပ်ဘဲ လာတောင်းရမ်းတော့ သူ့ရဲ့ (Mindset) ကိုယ်တော်(ﷺ)က အခုလိုပြောင်း ပေးခဲ့ပါတယ်။ "အို .. ဆွဟာဘီ မင်းမှာ ဘာ ပိုင်ဆိုင်မှုရှိလဲ? ဆွဟာဘီက ကျွန်တော့်မှာ စောင်တစ်ထည်ရှိပါတယ် လို့ ဖြေကြားပါတယ်။ ဒီတော့ ကိုယ်တော်(ﷺ)ဒီစောင်ကို လေလံနဲ့ ရောင်းပေးလိုက်ပြီး တစ်ဝက်နဲ့ ပုဆိန်ဝယ်... ကိုယ့်အားကိုယ်ကိုးပြီး ငွေရှာဖို့ မိန့်လိုက်တယ်။ နောက်တစ်ဝက်နဲ့ မိသားစုအတွက် စားနပ်ရိက္ခာဝယ်ဖို့ အမိန့်ရှိလိုက်တာပါ။

👉 အခြေခံလူတန်းစားတွေရဲ့ အတွေးအမြင်တွေကို အခြေခံကျကျ လက်တွေ့ကျကျ ပြောင်းလဲပစ်ခဲ့တာပါ။

🌼 စီးပွားရေး လုပ်ငန်းရှင်ကြီးများကိုလည်း သစ္စာတရားလက်ကိုင်ထားပြီး၊ စီးပွားရေးမှာ ဘယ်သူ့ကိုမှ မလှည့်ဖြားဖို့၊ ခေါင်းပုံမဖြတ်ဖို့၊ ဂုတ်သွေးမစုပ်ဖို့၊ မုသားမပြောဖို့ အသီးသီး မှာကြားပါတယ်။

🌼 မင်္ဂလာရှိတဲ့ စီးပွားရေးဆိုတာ သစ္စာတရားပေါ်အခြေခံကြောင်း ၊ ဒီလမ်းကြောင်းကနေ တမလွန်မှာ နဗီတွေ၊ အမှန်တရားဘက်တော်သားတွေ၊ အရှင့်လမ်းမှာ အသက်ပေးစတေးခဲ့တဲ့ သစ္စာဝါဒီတွေ၊ သူတော်စင်တွေနဲ့ အတူရှင်ပြန်ထရမည်ဖြစ်ကြောင်း သတင်းကောင်းပေးခဲ့ပါတယ်။

 အစ္စလာမ့်ဘောင်ထဲကနေ ရှယ်ယာစနစ်ဘလိုရှိရမယ်။ ရှယ်ယာရှင်နှစ်ဦး လုံး စိတ်တူကိုယ်တူဖြစ်နေသရွေ့ သူတို့ရဲ့ ပူးပေါင်းမှုတွေမှာ ဘရိကသ် မင်္ဂလာတွေ ရှိနေမယ်။ တစ်ဖက်သားနစ်နာစေမယ့်ပုံစံတွေ မပါအောင် ရှယ် ယာတွေ ဘလိုလုပ်လို့ရ တဲ့ဆိုတဲ့ လမ်းညွှန်ချက်တွေ ပေးခဲ့ပါတယ်။

 အရင်းအနှီးမရှိသူတွေကို ကြိုငွေထုတ်ပေးတဲ့ စနစ်တွေချပေးခဲ့ပါတယ်။ ဒါ ပေမယ့် တစ်ဖက်သားလူကို ကူညီတာမျိုးပဲ ဖြစ်ရမယ် ခေါင်းပုံဖြတ်တာမျိုး မရှိစေရဘူး။ လောင်းကစားပုံမပေါက်စေရဘူး။

 ပစ္စည်းတစ်ခုကို တစ်ကြိမ်တစ်ခါတည်း မဝယ်ယူနိုင်ရင်လည်း အရစ်ကျ စနစ်တစ်ခုနဲ့ ဝယ်ယူနိုင်တဲ့ နည်းလမ်းကောင်းတွေ ပြသပေးခဲ့ပါတယ်။ ဒါပေ မယ့် အတိုးစနစ်မပါစေရဘူး၊ မတတ်နိုင်တဲ့သူပေါ် ဝန်ပိစေတာမျိုး မဖြစ်စေရ ဘူး။

 အတိုးမဲ့ Islamic Banking system ရဲ့ မူဝါဒတွေကို ချမှတ်ပြီး ပြည်သူ လူထုရဲ့ အသက်အိုးအိမ်စည်းစိမ်တွေကို ကာကွယ်ပေးခဲ့ပါတယ်။

 အချုပ်ဆိုရရင် ကိုယ်တော်(ﷺ)ဟာ အကောင်းဆုံး စီးပွား ရေးစနစ် တွေ ကျွန်တော်တို့ အွမ္မသ်ကို ချပြပေးခဲ့တာပါ။ ဒါတွေကို သိမြင်အောင် လုပ်ဖို့ က ကျွန်တော်တို့တာဝန်ပါ။

🌺 နောက်ထပ် ကိုယ်တော်(ﷺ)က စီးပွားရေးမှာ ကျောရိုးသ ဖွယ်လိုအပ်တဲ့ အလုပ်သမားဥပဒေတွေကိုလည်း ပြဋ္ဌာန်းပေးခဲ့ပါတယ်။

🤝 အလုပ်ရှင်တွေကို "အသင်တို့ရဲ့ လက်အောက်ငယ်သား လုပ်သားပြည် သူတွေကို သက်ညှာထောက်ထားပေးဖို့၊ ချွေးမခြောက်ခင် လုပ်အားခရှင်းပေး ဖို့၊ ဖြစ်နိုင်ရင် အသင်တို့ ဝတ်သလို၊ စားသလိုပဲ သူတို့ကိုလည်း ကျွေးမွေးဆင် မြန်းပေးဖို့ စသဖြင့် မိန့်ကြားတော်မူပါတယ်။ အလုပ်မစခင် အလုပ်သမားရဲ့ ရ ပိုင်ခွင့်၊ ခံစားခွင့်တွေ၊ မူဝါဒတွေကို တိတိကျကျ သတ်မှတ်ပေးဖို့ မှာတမ်း တော်မူပါတယ်။ အလုပ်သမားရွေးချယ်ရာမှာ တာဝန်သိသူ၊ သစ္စာရှိသူ၊ လုပ် ရည်ကိုင်ရည်ရှိ သူတွေကို ဦးစားပေးခန့်အပ်ဖို့ လမ်းညွှန်တော်မူပါတယ်။

🌺 အခြားတစ်ဖက်မှာ လုပ်သားများကိုလည်း တာဝန်ကျေပြွန်သူများ ဖြစ်စေ ရန် တိုက်တွန်းနှိုးဆော်တော်မူခဲ့ပါတယ်။ ရှင်မြတ်ရဲ့ အမိန့်တော်ကိုနာခံပြီး အ လုပ်ရှင်ပေးအပ်လာတဲ့ တာဝန်ကိုပါ ကျေပြွန်စွာ ထမ်းဆောင်ရင် ဆဝါးဗ်နှစ် ဆ ရရှိမည် ဖြစ်ကြောင်း မိန့်ဆို ထားပါတယ်။

🏆 အောင်မြင် သန့်စင်လှတဲ့ စီးပွားရေးတစ်ခုတည်ဆောက်နိုင်ဖို့ လမ်းညွှန် ချက်အသေးစိတ်တွေကို စီရင်ကျမ်းကြီးကျမ်းငယ်အသွယ်သွယ်၊ ဟဒီးဆ်

ကျမ်းဂန်ကြီးတွေမှာ တဝကြီး ကျွန်တော်တို့ လေ့လာဖတ်ရှုဖို့ ကျန်ရှိနေပါသေးတယ်။

အခုတင်ပြသလောက်လေးတွေကို ချဲ့ထွင်စဉ်းစားရင်း မိမိတို့ အီမာန်ယူလက်ခံထားတဲ့ နဗီကြီးဟာ ဒီလိုအရည်အချင်းအပေါင်းနဲ့ ပြည့်စုံပါလားလို့.... တွေးတောရင်း ဂုဏ်ယူနိုင်ကြပါစေသား....





ရဗီအွလ် အောက်ဝလ်
(၁၉)ရက်နေ့

၁၉ • မြတ်ကိုယ်တော်(ﷺ)ရဲ့ ဘဝမှ မိတ်ဆွေဖွဲ့ခြင်း အနုပညာ

 လူသားဟာ တစ်ယောက်တည်းနေရင် အထီးကျန်ဆန်ပါတယ်။ ကိုယ့်ကိုယ်ကို အားနည်းသူလို့ ထင်မှတ်မိတယ်။ အများနဲ့ဆိုရင်တော့ အလိုလို အားရှိလာပါတယ်။

 ဒါကြောင့်လည်း မိတ်ဆွေဖွဲ့ခြင်းအနုပညာဟာ လူ့ဘဝမှာ အရေးကြီးတဲ့ ကဏ္ဍတစ်ခု ဖြစ်ရတာပေါ့...။

 အရဗီကဗျာဆရာတစ်ဦးက "လက်ဆိုတာ လက်ချောင်းလေးတွေပြည့်စုံမှ အနှစ်သာရပြည့်ဝပြီး၊ လူဆိုတာဟာလည်း ညီနောင်မိတ်ဆွေတွေနဲ့မှ အနှစ်သာရပြည့်ဝတာပါ"လို့ စပ်ဆိုခဲ့ပါတယ်။

 မိတ်ဆွေဖွဲ့ခြင်းအနုပညာမှာ ကျွန်တော်တို့ ကိုယ်တော်မြတ်(ﷺ)ဟာ စံပြဖြစ်ပါတယ်။

 မက္ကာရွှေမြို့တော်မှာ နေထိုင်စဉ် ဘဝမှာလည်း လူထုအချစ်တော်ဖြစ်ခဲ့ပါတယ်။

 ဒါကြောင့်လည်း ဟဂျ်ရေ့အတ်စ်ဝဒ်**(ကျောက်နက်တော်)**ကို နေရာတကျပြန်လည် ထားရေးမှာ ဆုံးဖြတ်ပေးမယ့်သူက ကိုယ်တော်ဖြစ်နေတော့ အားလုံးက တစ်ပြိုင်တည်း **هذا الأمين رضينا** “ဒီသစ္စာရှင်ကို ကျွန်တော်တို့ အားလုံးကို ကျေနပ်ပါတယ်”လို့ ပြောခဲ့ကြတာပါ။

 နဗီဘွဲ့ထူးချီးမြှင့်ခြင်းခံရပြီးတဲ့ နောက်ပိုင်းမှာ မိတ်ဆွေဖွဲ့ခြင်း အနုပညာကို အပြောအဆိုနဲ့တစ်ဖုံ၊ လုပ်ရပ်နဲ့ တနည်း ပြသပေးခဲ့ပါတယ်။

 “လူသားဟာ ကိုယ့်မိတ်ဆွေရဲ့ လမ်းစဉ်အတိုင်းလျှောက်လှမ်းတာပါ။ ဒါကြောင့် မိမိမိတ်ဆွေဖွဲ့တဲ့သူကို ကရုတစိုက် လေ့လာပြီးမှ မိတ်ဆွေဖွဲ့ပါ။” လို့ မိန့်ကြားခဲ့ပါတယ်။

 “ သူတော်ကောင်းရဲ့ထိုင်ဝိုင်းနဲ့ သူယုတ်မာရဲ့ ထိုင်ဝိုင်းတို့ပမာဟာ ရေမွှေးသည်အနားမှာ နေခြင်းနဲ့ ပန်းဘဲဆရာအနားမှာ နေထိုင်တဲ့အလားပါပဲ။ ရေမွှေးသည်နားနေရင် ရေမွှေးဝယ်ရင်ဝယ်ဖြစ်မယ်၊ ရေမွှေးလက်ဆောင်ရရင်

ရမယ်၊ မဟုတ်လည်း မွေးကြိုင်တဲ့သင်းရနံ့လေးတွေတော့ အနည်းဆုံးခံစား ရမှာပါ။ ပန်းဘဲဆရာနားမှာနေရင်တော့ အသင့်အဝတ်အစားတွေ မီးပွားစင် ရင်စင်မယ်၊ မဟုတ်လည်း အနံ့ဆိုးတွေတော့ ရမှာသေချာပါတယ်။” လို့ မိန့် ကြားခဲ့ပါတယ်။

 “ကိုယ်တော်(ﷺ)ကို အဝေးကနေ ကြည့်လိုက်ရင်တော့ ရှိန်နေမှာဖြစ်ပြီး ကိုယ်တော်နဲ့ မိတ်ဆွေဖွဲ့ပြီးတဲ့နောက်မှာတော့ ကိုယ်တော့်ကို မချစ်ဘဲ မနေနိုင်တော့ပါဘူး။”လို့ ဆွဟာဗာကြီးတွေက သက်သေပေး ကြပါတယ်။

 ကိုယ်တော်အပါးတော်မှာ ခစားဖူးသူတိုင်းရဲ့ ရင်ထဲအသဲထဲမှာ ကိုယ်တော်ဟာ သူ့ကိုပဲ အချစ်ဆုံးလို့ ယုံကြည်သွားစေတဲ့ အချက်ကတော့ သဘာဝလွန် အစွမ်းတစ်ခုပါပဲ။

 ကိုယ်တော်(ﷺ)ဟာ အယုတ်၊ အလတ်၊ အမြတ် မရွေး အားလုံးတို့နဲ့ မိတ်ဆွေဖွဲ့ပါတယ်။ အယူကွဲပြားညီနောင်တွေနဲ့လည်း မိတ်ဆွေဖွဲ့ပါတယ်။ ကိုယ်တော့်ကို ရန်မူသူတွေကိုလည်း မိတ္တာအလှနဲ့ ပြန်လည် တုန့်ပြန်လေ့ရှိ ပါတယ်။ ယဟူဒီတွေနဲ့ မိတ်ဆွေဖွဲ့ခဲ့တယ်၊ နဆ္ဆရာနီတွေနဲ့ မိတ်ဆွေဖွဲ့ခဲ့တယ်၊ ကာဖိရ် မုရှ်ရိက်တွေနဲ့လည်း မိတ်ဆွေဖွဲ့ခဲ့ပါတယ်။

➢ သို့ပေမယ်လည်း ကိုယ်ပေါင်း စိတ်ခွာ၊ လူပေါင်း အကီဒဟ်ကွာဆိုတဲ့ မူနဲ့ပဲ မိတ်ဆွေဖွဲ့ပါတယ်။

လောကီရေးရာ ကိစ္စရပ်တွေ၊ လူသားအကျိုးပြုလုပ်ငန်းတွေ ပူးပေါင်းဆောင်ရွက်နိုင်ဖို့ မိတ်ဆွေဖွဲ့ပါတယ်။

ယုံကြည်ချက်တွေကို စတေးတာမျိုး မဖြစ်စေရပါဘူး။ အကီဒဟ် အပေးအယူ မလုပ်ပါဘူး။ لكم دينكم ولي دين ကိုယ့်သာသနာနဲ့ ကိုယ်၊ ကိုယ့်ယုံကြည့်ချက်နဲ့ ကိုယ်၊ ကိုယ့်ရပ်တည်ချက်နဲ့ ကိုယ်ပါပဲ။

 ဒီလိုအလှတရားတွေနဲ့ လောက ကမ္ဘာကို ဆင်မြန်းပေးတဲ့ကိုယ်တော်၊ ဒီလို မွေးရနံ့တွေ ကျွန်တော်တို့ပေါ်မှာ ဆွတ်ဖြန်းပေးခဲ့တဲ့ ကိုယ်တော်ရယ်... ကျွန်တော်တို့ရဲ့ သိက္ခာ ဥစ္စာ၊ အသက်သွေးချွေးတွေ ကိုယ်တော့်အတွက် စတေးပါရစေ....





ရဗီအွလ် အောက်ဝလ်
﴾၂၀﴿ရက်နေ့

၂၀ { • မြတ်ကိုယ်တော်﴾ﷺ﴿(သို့) ပညာရေး ဗိသုကာ



﴾ဆောင်းပါးရှည်သွားတာ ခွင့်လွှတ်ပါလို့ တောင်းပန်ပါရစေ....﴿

 နဗီတမန်တော်မြတ်﴾ﷺ﴿ပွင့်ပေါ်ခဲ့တဲ့ခရစ်နှစ် (၆၀၀)ရာစု နှစ်ဟာ အမိုက်အမှောင် လွှမ်းနေတဲ့ခေတ်ဆိုတာ အားလုံးသိကြပါတယ်။ ဒါကြောင့်လည်း သမိုင်း ပညာရှင်တွေက Dark age ﴾العصر المظلم﴿ အမှောင် ခေတ် လို့ ခေါ်ကြတာပါ။

◆ ဒီလို ပညာမဲ့ခြင်းရဲ့ အမှောင်တွင်းကို အလင်းခွင်းဖို့ အရှင်မြတ်က ကိုယ်တော်မြတ်﴾ﷺ﴿ကို ပညာနေမင်းအဖြစ် စေလွှတ်ခဲ့ပါတယ်။

 ကိုယ်တော့်အပေါ် ပထမဆုံး ချပေးလိုက်တဲ့ ဝဟီနိဒါန်းကလည်း လူသားတစ်ယောက် မမျှော်လင့်မိတဲ့ **“ أقرا အသင်ဖတ်ပါ”** ဆိုတဲ့ ကောင်းကင်ကျ ဝဟီပါပဲ။

📄 နှစ်ပေါင်း ﴾၅၀၀﴿ ကျော် ကောင်းကင်နဲ့ မြေပြင်ကြား ပြတ်တောက်ခဲ့ရတဲ့ ဝဟီ connection ကို အရှင်မြတ်ပြန်လည် ဆက်သွယ်ပေးတဲ့ ကြိုးက ပညာရေးနဲ့ ပတ်သက်နေပါတယ်။ ကိုယ်တော်﴾ﷺ﴿မြတ်ဟာ အရေးအဖတ်ကို လူသားတွေဆီက သင်ယူမထားတဲ့ (အွမ္မီ) ဖြစ်ပါတယ်။ ကိုယ်တော်﴾ﷺ﴿ကို အလ္လာဟ်အရှင်မြတ် ကိုယ်တော်တိုင်က သင်ကြားပေးတာပါ။ အရှင်မြတ်က ကိုယ်တိုင်က ကိုယ်တော့်ကို လူသားတွေရဲ့ ဆရာအဖြစ်နဲ့ စေလွှတ်တော်မူပါတယ်။ ويعلمهم الكتاب والحكمة "လူသားတို့အား ကျမ်းဂန်သင်ကြားပေးရန်၊ ဉာဏ်ပညာပေါ်အခြေခံသော အသိပညာများ သင်ကြားပေးရန် ကိုယ်တော့်ကို စေလွှတ်ထားကြောင်း" အရှင်မြတ်က ကျမ်းမြတ်ကုရ်အာန်မှာ အကြိမ်ကြိမ် မိန့်ကြားထားပါတယ်။

💖 ကိုယ်တော်﴾ﷺ﴿ကိုယ်တိုင်ကလည်း "ငါကိုယ်တော်ဟာ ဆရာတစ်ဆူအဖြစ်အသင်တို့ထံ စေလွှတ်ခြင်းခံခဲ့ရပါတယ်" လို့ မိန့်ကြားထားပါတယ်။ ကိုယ်တော်မြတ်﴾ﷺ﴿ဟာ လူသားတွေကို သင်ကြားပို့ချပေးတဲ့ ဆရာဖြစ်ကြောင်း ဒီလောက်ဆို လုံလောက်ပါတယ်။

 အကျယ်တဝင့်ကိုတော့ အစ္စလာမ့်သုခမိန်ကြီး Sheik Abdul Fattah Abu Guddah သခင်ကြီး ပြုစုခဲ့တဲ့ الرسول المعلم وأساليبه في التعليم "ဆရာဖြစ်သော ကိုယ်တော်နဲ့ ကိုယ့်တော့်ရဲ့ သင်ကြားနည်းများ" ဆိုတဲ့ ကျမ်း၊ Dr Aaiz Alqarni သခင်ရေးသားတဲ့ ملهم العالم ရဲ့ محمد صلى الله عليه وسلم معلما ဆိုတဲ့ ခေါင်းစဉ်အောက်မှာ တဝကြီး ဖတ်နိုင်ပါတယ်။

➤ **အခုဆက်လက်ပြီး ကိုယ်တော်မြတ်(ﷺ)ရဲ့ ပညာနဲ့ ပတ်သက်တဲ့ Concept (သဘောထားအမြင်က) ဘာလဲ....?**

ဘယ်လိုအချက်တွေ၊ Rules တွေပါဝင်တာကိုမှ ပညာရေးလို့ ခေါ်တာလဲ...?

ကိုယ်တော်(ﷺ)ရဲ့ Teaching method သင်ကြားရေးနည်းစနစ် တွေက ဘလိုတွေလဲ...?

ဒါတွေကို ဒီဆောင်းပါးမှာ အသားပေးပြီး ဆွေးနွေးလိုပါတယ်။

*** ကိုယ်တော်(ﷺ)ရဲ့ ပညာရေးနဲ့ ပတ်သက်တဲ့ သဘောထားက အရမ်းကို လွယ်ကူရိုးရှင်းပါတယ်။ ပဟေဠိမဆန်ပါဘူး။

 ပညာရေးကို နှစ်မျိုးပဲ ခွဲပြတော်မူပါတယ်။

اللهم إني أسألك علما نافعا

"အို… အရှင်မြတ် ၊ အရှင်မြတ်ထံမှ အကျိုးပြုသော ပညာရပ်ကို တောင်းခံအပ်ပါတယ်။" اللهم إني أعوذبك من علم لا ينفع " အကျိုးမပြုတဲ့ ပညာရပ်မျိုးကနေ အရှင်မြတ်ထံ ကင်းရန် ဆုပန်ပါတယ်။" ဒီတော့ ကိုယ်တော်(ﷺ)က အကျိုးပြုတဲ့ ပညာနဲ့ အကျိုး မပြုတဲ့ ပညာဆိုပြီးပဲ ခွဲပြတာပါ။ ကျန်တဲ့ခေါင်းစဉ်၊ ရှုထောင့် အရောင်တွေနဲ့ မခွဲထား ပါဘူး။

### အကျိုးပြုတဲ့ ပညာရပ်.....?

နံပတ်(၁) ကိုယ့်ကိုယ်ကိုအကျိုးပြုနိုင်ရမယ်၊ ကိုယ်နဲ့ အနီးဆုံးက မိသားစုဝင်တွေကို အကျိုးပြုနိုင်ရမယ်။ မိမိအရပ်ဒေသ၊ တိုင်း၊ပြည်နယ်၊ နိုင်ငံကို အကျိုးပြုနိုင်ရမယ်။ ဖြစ်နိုင်ရင် ကမ္ဘာကြီးကို အကျိုးပြုနိုင်ရမယ်။ ဒီခေါင်းစဉ်တွေထဲက တစ်ခုခုကိုမှ အကျိုးမပြုနိုင်ရင်တော့ ဒါဟာ အကျိုးမပြုတဲ့ ပညာရပ်လို့ မှတ်ချက်ပြုရပါလိမ့်မယ်….။ **(❶+❶=❷)** ထက်ကို ပိုမိုလွယ်ကူမယ်ထင်ပါတယ်။

📖 မြတ်ကိုယ်တော်ပေါ်မှာ ကျရောက်တဲ့ ကျမ်းမြတ်ကုရ်အာန်က ပညာရေးနဲ့ ပတ်သက်ပြီး ဖတ်ဖို့ အမိန့်ရှိတယ်။

📖 လူသားတွေရဲ့ ဖခင်ကြီး အာဒမ်(عليه السلام)ကို အရှင်မြတ် ကိုယ်တော်တိုင် က သင်ကြားပေးထားတယ်။

📖 လူသားကို အရှင်မြတ်ကိုယ်တော်တိုင်က သင်ကြားပေးတော်မူတယ်။ လို့ မိန့်ထားတယ်။

.... أقرا .... أقرا ... أقرا သင်ဖတ်ပါ၊... အသင်ဖတ်ပါ၊ ... အသင်ဖတ်ပါ... တဲ့

❖ ဘာကိုဖတ်ရမလဲ ဖော်ပြမထားပါဘူး။

❖ ဒါပေမယ့် ဘယ်လိုဖတ်ရမလဲ ဆိုတာကိုတော့ ဖော်ပြထားပါတယ်။

باسم ربك الذي خلق

➤ " အသင့်ကို ဖန်ဆင်းတော်မူသော အရှင်မြတ်ရဲ့ နာမတော်နဲ့ ဖတ်ပါ"

သင့်ရဲ့ ဖန်ဆင်းရှင်ကို သိစေဖို့ ဖတ်ပါ လို့ သဘောဆောင်ပါတယ်။

"က" ကလေးငယ် ချစ်စဖွယ်ဆိုရင်

"က"ကလိမဟ် ရွတ်ဆိုပါ ဆိုပြီးလည်း ဖတ်ပါ။

"A" For Apple ဆိုရင် "A" For Allah Nothing but Allah လို့ လည်း ပြောဆိုတတ်ဖို့ လိုအပ်ပါတယ်။

"Biology is  Study of Living things " ဆိုတဲ့ Definition ကို ကျက်မှတ်တဲ့ ကလေးဟာ သက်ရှိတွေကို အသက်ဘာသူက ပေးတာလဲ။ သက်ရှိတွေကို အသက်ရှင်အောင် စားနပ်ရိက္ခာတွေ ဘယ်သူက စီမံပေးနေ တာလည်း ဆိုတာကို လည်း  သိဖို့လိုအပ်ပါတယ်။  ဒီလိုနဲ့﴾الرزاق﴿(ကမ္ဘာခပ်သိမ်းကို  ရိုဇီရိက္ခာချီး

မြင့်တော်မူသော အရှင်မြတ်) ဆီ အတွေးနယ်ချဲ့ရင်း ရောက်ကို ရောက်သွားရမှာပါ။

 မိမိသင်ယူလိုက်သမျှအချက်အလက်တွေ၊ ဖတ်ရှုတ်လိုက်သမျှ စာလုံးတွေဟာ အရှင်မြတ်ဆီ ခေါ်ဆောင်သွားနိုင်တဲ့ အာနိသင်တွေ ပြည့်မောက် နေရပါမယ်။

 မိမိလိုက်စားနေတဲ့ ပညာရေးဟာ မိမိကိုယ်ကို အရှင်မြတ်နဲ့ မိတ်ဆက်ပေးနိုင်ရပါမယ်။

ဘဝမှာ အစ္စလာမ်နည်းကျ ရပ်တည်နိုင်ဖို့ အာမခံချက်ပေးနိုင်ရပါမယ်။

သင်ယူနေရင်းနဲ့ တနေ့ ငါသင်သမျှနဲ့ ပတ်သက်ပြီး အရှင်မြတ်ရဲ့ ခုံရုံးမှာ ဘယ်လိုသင်ယူခဲ့သလဲ...?

ကိုယ်သိသမျှအပေါ် ဘယ်လို လက်တွေ့ ကျင့်ကြံခဲ့လဲ့...?

ဘယ်လို ပြန်လည် ပို့ချခဲ့လဲ...?

ဆိုတဲ့ အတွေးတွေ ရှင်သန်နေဖို့ လိုအပ်ကြောင်း ကိုယ်တော်မြတ်(ﷺ)က ကျွန်တော်တို့ကို သတိပေးလမ်းညွှန်တော်မူပါတယ်။

➤ ဒီလိုအတွေးတွေနဲ့အတူ အစ္စလာမ်သာသနာတော် ဖြန့်ချိရေးအတွက်၊ လူသားထုတစ်ရပ်လုံးအား အကျိုးပြုနိုင်ရေးအတွက် မိမိခေတ်၊ မိမိဒေသရဲ့ အကောင်းဆုံး အဖွင့်ဖြိုးဆုံး ပညာရေးစနစ်တွေကို ကိုယ်တော်မြတ်(ﷺ)က အသုံးချတော်မူခဲ့ပါတယ်။

❖ ဘာသာစကားပေါ်လည်း အစွဲမထားဘဲ လိုအပ်တဲ့အခါ ရန်သူတွေဖြစ်ကြတဲ့ ယဟူဒီတွေရဲ့ ဟီဗရူးဘာသာစကားကို သင်ယူဖို့ ဇိုင်ဒ်ဗင်န်ဆာဗိသ်(ﷺ)သခင်ကြီးကို တာဝန်ပေးပါတယ်။

❖ စစ်ရေးမှာလည်း စလ်မာန် ဖွာရစီ သခင်ကြီးက ကျုံးတူး တိုက်ခိုက်ရေး စနစ်ဟာ အဟ်ဇာဗ်စစ်ပွဲမှာ အလွန်ပဲအကျိုးရှိနိုင်တယ်လို့ အကြံပြုလာတော့ ပါရှန်းတို့ရဲ့ စစ်ရေး ယဉ်ကျေးမှုဖြစ်ပေမယ့်လည်း လက်ခံကျင့်သုံးတော်မူခဲ့ပါတယ်။

❖ ထိုခေတ်ထိုအခါမှာ နည်းပညာအမြင့်ဆုံးဆက်သွယ်ရေးစနစ်က သဝဏ်လွှာတွေပို့ ဆောင်ခြင်းဖြစ်ပါတယ်။ ဒါကိုကိုယ်တော်(ﷺ)သခင် အင်အားကြီးနိုင်ငံ့ခေါင်းဆောင်တွေကို သာသနာနဲ့ မိတ်ဆက်ပေးရာမှာ အသုံးချတော်မူခဲ့ပါတယ်။ (၉)ပါးထက်မနည်း ရှင်ဘုရင်တွေဆီ သံတမန်တွေစေလွှတ်ခဲ့ပါတယ်။ ဆွဟာဗီအချို့က "အို...ကိုယ်တော် ရှင်ဘုရင်တွေက သဝဏ်လွှာတွေ

ပေါ်မှာ တံဆိပ်ခပ်နှိပ်ထားတာမရှိရင် မဖတ်ကြဖူးလို့ လျှောက်ထားတဲ့အခါ ကိုယ်တော်(ﷺ)ချက်ချင်းပဲ တံဆိပ်ခပ်နှိပ်ဖို့ လက်စွပ်တော်ကို ပြုလုပ်စေတော်မူခဲ့ပါတယ်။

 ဒီနေ့ သင်ကြားရေးမှာ အရမ်းကို ခေတ်စားနေတဲ့ Mindmaping technique ကို အသုံးပြုပြီး ကျွန်တော်တို့ကိုယ်တော်မြတ် (ﷺ)လောကီသက်တမ်းရဲ့ အရွေ့တွေ၊ တမလွန်အတွက် ကျန်ရှိနေတဲ့ အချိန်တွေကို၊ လူသားရဲ့ ဆန္ဒအာသီသတွေနဲ့ ဒါတွေအားလုံးကို ဘယ်လို manage လုပ်ရမယ်ဆိုတာတွေကို သင်ကြားပေးခဲ့ပါတယ်။

❖ လိုအပ်တဲ့အခါတိုင်း ပမာလေးတွေနဲ့ ရှင်းပြခဲ့တာတွေဟာလည်း နဗီရဲ့ သင်ကြားရေး စွန္နသ်တစ်ခုဖြစ်ပါတယ်။

❖ နားမလည်မှာစိုးရိမ်ပြီး အချက်အလက်တစ်ခုကို (၃)ကြိမ်တိုင်တိုင် ပြန်လည် သင်ကြားပေးခဲ့တာဟာလည်း နဗီရဲ့ခေတ်မီ၊ ခေတ်ရှေ့ပြေး သင်ကြားရေး စနစ်တွေလို့ ပြောပါရစေ။

❖ Agriculture (စိုက်ပျိုးမွေးမြူရေး ကဏ္ဍ)တွေမှာလည်း စွံပလွန်ပင်တွေကို ဘယ်လိုစိုက်ပျိုးရတယ်။ ကုလားအုတ်တွေဘယ်လို မွေးမြူးရတယ်။ ဆိတ်

တွေ ဘယ်လို ထိန်းကျောင်းရတယ်ဆိုတဲ့ လမ်းညွှန်ချက်တွေ ချီးမြှင့်ခဲ့တယ် မလား...?

❖ ကိုယ်တော့်လက်ထက်မှာ ထွန်းကားလျက်ရှိတဲ့ Industry အသီးသီးကို လိုအပ်သလို သင်ယူစေခဲ့ပြီး၊ လောကကြီးရဲ့ အရွေ့တွေ လားရာတွေကိုလည်း မျက်ခြေမပြတ် စောင့်ကြည့်နည်းတွေကို ချစ်နဗီ(ﷺ)က သင်ကြားပေးခဲ့တာ ပါ။

အချုပ်ဆိုရရင်တော့ ချစ်နဗီ(ﷺ)ချပြခဲ့တဲ့ ပညာရေးစနစ်ဟာ အလွန် ကို ကျယ်ပြန့်ပါတယ်။ သဘောထားကြီးပါတယ်။ အရှင်မြတ်ကို သိရှိစေခြင်း၊ အကျိုးပြုခြင်းဆိုတဲ့ ဘောင်အတွင်းကနေ အရာအားလုံးကို သင်ယူနိုင် ကြောင်း ဖွင့်ဟထားပါ တယ်။ "الحكمة ضالة المؤمن حيث وجدها فهو أحق بها"

"ဘယ်အချိန်၊ဘယ်အရာဟာ ၊ ဘလောက်လိုအပ်နေသလဲ ဆိုတာကို သိရှိ(သင် ယူခြင်းအနုပညာ)ဟာ မုအ်မင်န်တို့ပျောက်ဆုံးနေတဲ့ ကိုယ်ပိုင်ရတနာပါ။ ဘယ်နေရာမှာ အဲ့ဒီရတနာ ပြန်တွေ့မလဲ အဲ့ဒါမုအ်မင်န်တို့နဲ့သာ အထိုက်တန် ဆုံးပါ။"လို့ ကျွန်တော်တို့ ကိုယ်တော်မြတ်(ﷺ)က မိန့်ဆိုခဲ့ပါတယ်။

ကိုယ်တော်(ﷺ)ချပြခဲ့တဲ့ ပညာရေးစနစ်မှာ ခေတ်ပညာ၊ သာသနာ့ပ ညာဆိုတဲ့ ခေါင်းစဉ်တွေမတွေ့ရပါဘူး။

မုအ်မင်န်တိုင်းဟာ အစ္စလာမ့်နည်းကျ ကုန်ဆုံးနိုင်မယ့်အတိုင်းအတာ ခန့် အသိပညာအတတ်ပညာတွေ သင်ယူထားဖို့က ဖရဒ်(မလုပ်မနေရတာ ဝန်) တစ်ခုပါ။

 ခေတ်ပညာတတ်တဲ့ ကိုယ်တော်(ﷺ)ရဲ့ အွမ္မသီပေါ်မှာလည်း အကီဒဟ်သိဖို့၊ ခဝပ်မှုကဏ္ဍသိဖို့၊ အပေးအယူကဏ္ဍတွေသိဖို့၊ လူမှု ဆက်ဆံရေးတွေ သိဖို့ ၊ စာရိတ္တကောင်းတွေနဲ့ ဆင်မြန်းဖို့ လိုအပ်သလို

သာသနာ့ပညာလမ်းကြောင်းမှာ လျှောက်လှမ်းနေတဲ့ ကိုယ်တော့်ရဲ့ အွမ္မသီတွေပေါ်မှာလည်း လောကကို မျက်ခြေမပြတ်ကြည့်ပြီး လိုအပ်တဲ့ နည်းပညာတွေကို သင်ကြားရေးစနစ်တွေမှာ အသုံးချဖို့၊ လိုအပ်ရင် သင်ကြား ရေးစနစ်တွေ၊ သင်ရိုးတွေပြောင်းလဲပစ်ဖို့ တာဝန်ရှိတာပါ။

ခေတ်ပညာတတ်တစ်ယောက်က မိမိတတ်မြောက်ထားတဲ့ ပညာရပ်တစ်ခုနဲ့ မျိုးဆက်သစ်တွေကို အရှင်မြတ်နှစ်သက်ဖို့ရည်စူးပြီး၊ သာသနာ ဖြန့်ချိရာမှာ အင်အားတစ်ခုတည်ဆောက်ဖို့ ရည်စူးပြီး ပို့ချပေးခဲ့မယ်။

 သာသနာပို့ချနိုင်ဖို့၊ လူသားအကျိုးသယ်ပိုးနိုင်ဖို့ သိပ္ပံနဲ့ ဝိဇ္ဇာနယ်ပယ်မှာ၊ IT (နည်းပညာနယ်ပယ်မှာ)၊ အတွေးအခေါ်နယ်ပယ်မှာ၊ စက်မှုလက်မှုနယ်ပယ်အသီးသီးမှာ မျိုးဆက်သစ်တွေအတွက် သမိုင်းမှတ်တိုင်တစ်ခုကို စိုက်ထူခဲ့မယ်။

အဖူးအပွင့်တွေဝေဆာနေတဲ့ ပညာပန်းခင်းကြီး တစ်ခုပျိုးခဲ့မယ်၊ အညွန့်တလူလူ၊ အသီး တဖြိုင်ဖြိုင်နဲ့ ပညာသီးပင်ကြီးစိုက်ပျိုးခဲ့မယ်။

သာသနာ့ပညာရှင်ကြီးတွေကလည်း ကုရ်အာန်၊ဟဒီးဆ်တွေ၊ ဖွေကဟ်တွေ သာသနာ့အဆုံးအမတွေ ပို့ချဖို့ ပညာရေးဌာနတွေ ဝိုင်းဝန်းတည် ဆောက်ခဲ့မယ်၊ အွမ္မသ်ရဲ့ ရင်သွေးငယ်တွေအတွက် ဂျန္နသ်ဆီသွားဖို့ ခရီးလမ်းတွေဖောက် လုပ်ခဲ့မယ်၊ နှလုံးသားနဲ့ တည်ထောင်ခဲ့ကြမယ်ဆိုရင် အားလုံးဟာ အရှင်မြတ် ထံမှာ ဆဝါးဗ်ထူးတွေ ဆွတ်ခူးကြရမှာ သေချာပါတယ်။

 နောက်ပေါက်တဲ့ ရွှေကြာပင်တွေက ဘဝရဲ့ ကဏ္ဍအစုံမှာ တိုးတက်ဖွံ့ဖြိုး မှုတွေဆီ ဦးတည်နေချိန်၊ ကမ္ဘာသူကမ္ဘာသားတွေအတွက် အစီးအနင်းတွေ၊ နည်းပညာပိုင်းဆိုင်ရာ **Item** အစုံ ထုတ်လုပ်နေချိန် ကမ္ဘာကြီးကို ပညာအလင်းခနေ့စွဲတွေ ပြသပေးခဲ့တဲ့၊ လောကကြီးကို ပညာရေး အနှစ်သာရအမှန်တွေကို ခံစားစေခဲ့တဲ့ ပညာနေမင်းတစ်ဆူဖြစ်ခဲ့တဲ့ ကိုယ်တော့်အွမ္မသ်

တွေဟာလည်း ပူးပေါင်းပြီးတော့ မျိုးဆက်သစ်အတွက် တစ်ခုခုတော့ ဆောင်ရွက်ချိန်တန်ပါပြီ.....လို့။





ရဗီအွလ် အောက်ဝလ်
(၂၁)ရက်နေ့

၂၁ • မြတ်တမန်တော်ဘဝမှTeamwork (ပူးပေါင်းဆောင်ရွက်ခြင်း) စံပြလမ်းညွှန်

 Teamwork (ပူးပေါင်းဆောင်ရွက်ခြင်း)ဟာ အောင်မြင်မှုဆီ လှမ်းချီရာမှာ ယနေ့ခေတ်ရဲ့ အထိရောက်ဆုံး စနစ်တစ်ခုပါ။

➢ ဒီစနစ်ကို ကျွန်တော်တို့ ကိုယ်တော်မြတ်(ﷺ)က စွဲစွဲမြဲမြဲ ကျင့်သုံးပြသခဲ့ပါတယ်။

❖ ငယ်ရွယ်စဉ် ကလေးဘဝမှာကတည်းက ကအ်ဗာကျောင်းတော်ကြီး တည်ဆောက်ရေးမှာ ကိုယ်တော်ဟာ အားလုံးနဲ့ပူးပေါင်းပြီး အုပ်ခဲသယ်တဲ့ အလုပ်ကို လုပ်ဆောင်တော်မူခဲ့ပါတယ်။

❖ ဆယ်ကျော်သက်အရွယ်မှာ حرب الفجار (မက္ကာရွှေမြို့တော်ပေါ် ကျူးကျော်လာသူတွေနဲ့ ရင်ဆိုင်ခဲ့ရတဲ့စစ်ပွဲ)မှာလည်း ကိုယ်တော်(ﷺ)က အများနဲ့အတူ ပူးပေါင်းပါဝင်ပေးခဲ့ပါတယ်။

❖ မတရားမှုကိုနှိမ်နင်းဖို့၊ အဖိနှိပ်ခံလူစုတွေဘက်ကနေ Speakout (အသံထုတ်ပေးနိုင်ဖို့) မက္ကာမြို့တော်နေ ဂုဏ်သရေရှိလူကြီးမင်းတွေက အချင်းချင်း

ကြားမှာ حلف الفضول အမည်နဲ့ ပဋိညာဉ်တစ်ခု ပြုလုပ်ခဲ့ကြပါတယ်။ ဒီကိစ္စမှာလည်း ကိုယ်တော်(ﷺ)က ထိပ်ဆုံးက ပါဝင်ခဲ့ပါတယ်။

 နဗီဖြစ်ပြီးနောက်ပိုင်းမှာလည်း " မတရားမှုကို တွန်းလှန်ဖို့၊ လူသားချင်းစာနာစိတ်တွေ ဖိတ်ခေါ်ဖို့ ဘယ်လိုကြိုးပမ်းမှုအတွက်ပဲမဆို အုပ်တစ်ချပ် သဲတစ်ပွင့် ပါဝင်ခွင့်ရဖို့ ဖိတ်ခေါ်ခံရလေတိုင်း ငါကိုယ်တော် နောက်ဆိုင်းနေ မှာမဟုတ်"လို့ မိန့်ကြားခဲ့ပါတယ်။

❖ သက်တော် (၄၀)ပြည့်ချိန် နဗူဝသ်ဘွဲ့ထူး အပ်နှင်းခြင်းခံရပြီးတဲ့အခါမှာလည်း အများနဲ့ လက်တွဲပြီး ပူးပေါင်းဆောက်ရွက်ခြင်းကိစ္စတွေကို ကိုယ်တော်(ﷺ)ဟာ အရှိန်မြှင့်ကာ အကောင်အထည်ဖော်ခဲ့ပါတယ်။

❖ မဒီနာမြို့တော်ကို ပြောင်းရွှေ့တော်မူပြီးနောက်ပိုင်းမှာ မဒီနာမြို့တော်ဖွံ့ဖြိုးရေးအတွက် ယဟူဒီတွေနဲ့လည်း ပူးပေါင်းဆောင်ရွက်ခဲ့တာတွေ ရှိခဲ့ပါတယ်။

❖ ကိစ္စရပ်တိုင်းမှာ ဆွဟာဗာကြီးတွေနဲ့ မရှ်ဝရဟ် (ဆွေးနွေးတိုင်ပင်ခဲ့တာတွေ၊ သူတို့ရဲ့ အကြံဉာဏ်တွေကို လေးစားတန်ဖိုးတားပေးခဲ့တာတွေဟာ ပူး

ပေါင်းဆောင်ရွက်ခြင်း ကိစ္စရပ်အတွက် ချစ်နဗီပြသခဲ့တဲ့ စံပြလမ်းညွှန်ချက်တွေပဲ မဟုတ်လား...?

❖ ဒါကြောင့်လည်း ချစ်နဗီ(ﷺ)က "**يد الله على الجماعة** (ပူးပေါင်းဆောင်ရွက်တဲ့အုပ်စုအပေါ်မှာ အရှင်မြတ်ရဲ့ အကူအညီတွေရှိနေပါ တယ်။)" လို့ မိန့်ကြားခဲ့ပါတယ်။

❖ တစ်ခုမှတ်သားထားဖို့အရေးကြီးတာကတော့... ချစ်နဗီ(ﷺ)ဟာ ဒေသဖွံ့ဖြိုးရေးအတွက် ကာဖိရ်၊ မုရ်ရိုက်၊မုနာဖိက်၊ ယဟူဒီ၊ နဆ္ဗရာနီ၊ လူဖြူ၊ လူမဲ မခွဲခြားဘဲ အားလုံးနဲ့ အတူပူးပေါင်းဆောင်ရွက်ခဲ့ပါတယ်။

❖ အလုပ်မှာ ပူးပေါင်းဆောင်ရွက်ခဲ့ပေမယ့် အကီဒဟ် ယုံကြည်ချက်တွေမှာတော့ အုပ်ရောရော ကျောက်ရောရော အဖြစ်မခံခဲ့ပါဘူး။ **لكم دينكم ولي دين** ကိုယ့်သာသနာနဲ့ ကိုယ်၊ ကိုယ့်ယုံကြည်ချက်နဲ့ ကိုယ်၊ ကိုယ့်ရပ်တည်ချက်နဲ့ ကိုယ်ပါပဲ။

💪အရာရာကို အားလုံးနဲ့ ပူးပေါင်းဆောင်ရွက်ရင်း ကိုယ်တော့်ရဲ့ နောက်လိုက်ကောင်းများ ဗီသကြပါစို့လား။





## ရဗီအွလ် အောက်ဝလ် (၂၂)ရက်နေ့



၂၂ • မြတ်တမန်တော်(ﷺ)နဲ့ Motivation (စိတ်ဓါတ်မြှင့်တင်ရေး)

 Motivation (စိတ်ဓါတ်မြှင့်တင်ရေး) ကဏ္ဍဟာ ဘဝရဲ့ရှုထောင့်အစုံမှာ စိတ်ဓါတ်ကျဆင်းနေသူအတွက် အကောင်းဆုံး ကုသနည်းတစ်ခုပါ။

 မြတ်နဗီ(ﷺ)က ကျွန်တော်တို့ အွမ္မသီတွေကို နှစ်ဘဝရဲ့ အောင်မြင်မှုတွေ ဆွတ်ခူးနိုင်ဖို့ ၊ ဘဝရဲ့ ကဏ္ဍတိုင်းမှာ အောင်နိုင်မှုတွေ ရရှိစေဖို့အတွက် စိတ်ဓါတ်မြှင့်တင်ရေးတွေပါတဲ့ လမ်းညွှန်ချက်တွေကို မိန့်ကြားတော်မူခဲ့ပါတယ်။

 ကိုယ်တော်မြတ်(ﷺ)ရဲ့ မိန့်ကြားချက်တွေကို ကျွန်တော်တို့ အပိုင်း(၂) ပိုင်းခွဲပြီး နားလည်နိုင်ပါတယ်။

❖ ❶မစာအိလ် (ပညတ်ချက်များနဲ့သက်ဆိုင်တဲ့ကဏ္ဍ)

❖ ❷ဖဇွာအိလ် ( အကျိုးကျေးဇူးများ တင်ပြတဲ့ကဏ္ဍ)

❖ ကိုယ်တော်မြတ်(ﷺ)က ကျွန်တော်တို့ ကောင်းမှုကုသိုလ်တွေ ပွားများလာနိုင်ဖို့၊ လူတော်လူကောင်းတွေဖြစ်ဖို့၊ လူလိမ္မာတွေဖြစ်ကြဖို့ အတွက် အကျိုးကျေးဇူးတွေကိုမိန့်ကြားပြီး စိတ်ဓါတ်ခွန်အားတွေ ပေးတော် မူခဲ့ပါတယ်။

❖ အကီဒဟ် (ယုံကြည်မှုကဏ္ဍမှာ) "အသင်တို့ ကလိမဟ်သာဖတ်ထား လိုက်မှချအောင်မြင်ကြမယ်"တဲ့။)

❖ အေဗာဒသ် (ခဝပ်မှုကဏ္ဍမှာ) "ဂျန္နသ်ရဲ့ သော့တံဟာ နမားဇ်ဖြစ်တယ်"၊ "အခက်အခဲတိုင်းကို နမားဇ်နဲ့သာဖြေရှင်းကြဖို့" လမ်းညွှန်တော်မူပါတယ်။

❖ "ရိဇာခနဲ့ပတ်သက်ပြီး " ငါအရှင်ကိုယ်တော်တိုင် ရိဇာထားသူကို ဆုချပေးမယ်" ဆိုတဲ့ ဟဒီးဆ်ကို မိန့်ကြားတော်မူပါတယ်။

❖ဇကားသ်နဲ့ပတ်သက်ပြီး "ပေးကမ်းလှူဒါန်းလိုက်လို့ ပစ္စည်းဥစ္စာမှာ လျော့သွားရိုး ထုံးစံမရှိပါဘူး။"လို့ မိန့်ကြားပါတယ်။

❖ဟဂ်ျနဲ့ပတ်သက်ပြီး "မဖွယ်မရာကိစ္စတွေကိုလည်း မလုပ်၊ ခိုက်ရန် ဖြစ်ပွားခြင်းလည်းမရှိဘဲ အရှင်မြတ်အတွက် သီးသန့်ဟဂ်ျပြုလုပ်ခဲ့ရင် မိခင်မွေးတဲ့ နေ့ကအတိုင်း ခြောက်ပြစ်ကင်း သဲလဲစင်ဖြစ်သွားပြီ"လို့ မိန့်ကြား တော်မူပါတယ်။

❖ မုအာဝမလားသ်(အပေးအယူကဏ္ဍမှာ) "မှန်ကန်ပြီး သစ္စာသမာဓိရှိရှိရောင်း ဝယ်ဖောက်ကားသူ"ဟာ နဗီတမန်တော်တွေ၊ အမှန်တရားဘက်တော် သား တွေ၊ ရှဟီဒ် အရှင်မြတ်အတွက် အသက်စတေးကြသူတွေ၊ သူတော်စင် သူ တော်မြတ်တွေနဲ့ အတူ ရှင်ပြန်ထရမယ်။"လို့ မိန့်ကြားခဲ့ပါတယ်။

❖ မုအာရှရည် (လူမှုဆက်ဆံရေးကဏ္ဍ)မှာ "ညီနောင်တစ်ဦးကို ကူညီနေသ မျှ အရှင်မြတ်ကလည်း သူ့ကို ကူညီနေမှာဖြစ်တယ်။" လို့ မိန့်ကြားထားပါ တယ်။

❖အခ်လားက် (စာရိတ္တကဏ္ဍ)မှာ "ငါကိုယ်တော်အချစ်ဆုံးသူ၊ ငါကိုယ်တော် နဲ့ အနီးဆုံးမှာ နေထိုင်ရမယ့်သူဟာ အသင်တို့အနက် စာရိတ္တအကောင်းဆုံး သူ"သာ ဖြစ်တယ် လို့ မိန့်ကြားခဲ့ပါတယ်။

❖အပြစ်တွေကျူးလွန်မိလို့ မှိုင်နေတဲ့အွမ္မသီတွေ၊ ကြေကွဲနေတဲ့သူတွေကို "လူသားတိုင်းဟာ မှားတတ်ကြတာပဲ၊ အကောင်းဆုံး အမှားကျူးလွန်သူ က တော့ အချိန်မီသောင်ဝ်ဗဟ်လုပ်လိုက်သူပါပဲ"၊ "အမှားတွေကနေ ဝန်ချ တောင်းပန်သူဟာ အပြစ်မရှိတဲ့ သူလိုပါပဲ။"စတဲ့ မိန့်ကြားချက်တွေနဲ့ ဖြေသိမ့် တော်မူခဲ့ပါတယ်။

❖ နေရာတိုင်းမှာ၊ အချိန်တိုင်းမှာ ၊ ကဏ္ဍတိုင်းမှာ၊ ဘဝရဲ့ အချိုးအကွေ့ တိုင်းမှာ ချစ်နဗီ(ﷺ)စိတ်ဓါတ်ခွန်အားတွေ မြင့်တက်စေမယ့် ရွှေရောင်မိန့်ခွန်းချက်တွေ ကျွန်တော်တို့နဲ့ အတူ ရှိနေပါတယ်။

 **ကိုယ်တော့်ရဲ့ အွမ္မသီမဟုတ်လား...?**

ဖွဲ့မလျှော့ အားမပျော့ဘဲ နှစ်ဘဝအောင်မြင်မှုဆီ ချီတက်ကြပါစို့လား.....?





ရဗီအွလ် အောက်ဝလ်
﴾၂၃﴿ရက်နေ့

၂၃

• စီရသ် မှတ်တိုင်တစ်ခု စိုက်ထူကြစို့.....

 ဘဝမှာ စီရသ်နဲ့ ပတ်သက်တဲ့ အမှတ်တရလေးတစ်ခုလောက်တော့ ချန်ခဲ့ကြရအောင်။ စာအုပ်အနေနဲ့ပဲ ဖြစ်ဖြစ်၊ ဆောင်းပါးအနေနဲ့ ပဲဖြစ်ဖြစ်၊ ဟောပြောချက် အနေနဲ့ ပဲဖြစ်ဖြစ် .....

✍ဆွဟာဗာကြီးတွေ ဘယ်လောက်တောင် အားကျဖို့ကောင်းလဲ..? ကိုယ်တော်မြတ်﴾ﷺ﴿နဲ့ ပတ်သက်ပြီး အသေးစိတ် အချက်အလက်တွေကို တာဝန်သိသိ သစ္စာရှိရှိနဲ့ ကျွန်တော်တို့ကို လက်ဆင့်ကမ်း ပေးခဲ့ပါတယ်။ သမိုင်းမှတ်တိုင်တွေ အများကြီး စိုက်ထူခဲ့နိုင်ပြီ။



ဆွဟာဗာကြီးတွေနောက်မှာ သာဗေ့အီတွေ၊ သူတို့နောက်မှာပွင့်ပေါ်ခဲ့တဲ့ ပညာရှင်တွေအားလုံးကလည်း မိမိတို့ ခေတ်အခါမှာ ပိုင်ဆိုင်ထားတဲ့ အင်အား၊ အရည်အချင်းတွေကို အသုံးပြုပြီး စီရသ်မှတ်တိုင်တွေ စိုက်ထူခဲ့ကြ ပါတယ်။



စီရသ်ပညာရှင်ကြီးတွေက ကိုယ်တော်မြတ်(ﷺ)နဲ့ ပတ်သက်ပြီး အတွဲပေါင်းများစွာပါတဲ့ ကျမ်းကြီးတွေပြုစုခဲ့တာနော်....။ ဒီကျမ်းကြီးတွေဟာ ယနေ့ ကျွန်တော်တို့အတွက် မှီငြမ်းကျမ်းများအဖြစ် ရပ်တည်နေတာပါ။

**အရှင်မြတ်ကို ပြဖို့သူတို့မှာ စီရသ်မှတ်တိုင်တွေ ရှိနေပြီ။**



တချို့ပုဂ္ဂိုလ်တွေက စီရသ်ကို ရေးသားတဲ့နေရာမှာ နွတ်ကဲ်သွာ မပါတဲ့ စကားလုံးတွေနဲ့ ရေးသားပြုစုရင်း လက်စွမ်းပြခဲ့တာပါ။



တချို့က စီရသ်ကို ကဗျာပုံစံနဲ့ တင်ပြကြတာပါ။ အလွန်ပဲ အားကျစရာတွေပါ။ ဒီတော့ အရှင်မြတ်အတွက် ၊ ကိုယ်တော့်ကို ချစ်ကြောင်း သက်သေပြဖို့ စီရသ်မှတ်တိုင်စိုက်ထူခြင်းဟာ အကောင်းဆုံး အခွင့်အရေးတစ်ခုပါပဲ။

**လက်လွှတ်ဆုံးရှုံးမခံစေချင်ပါဘူး။**



ရဗီအွလ် အောက်ဝလ်
{၂၄}ရက်နေ့

၂၄

• နဗီ{ﷺ}ရဲ့ ဘဝမှတ်တမ်း

 ကိုယ်တော်မြတ်{ﷺ}ဟာ နဗီဖြစ်တဲ့နောက်ပိုင်း မက္ကာ ရွှေမြို့တော်မှာ {၁၃}နှစ် ၊ မဒီနာရွှေမြို့တော်မှာ {၁၀}နှစ် စုစုပေါင်း {၂၃}နှစ် နေထိုင်တော်မူခဲ့ပါတယ်။

 မက္ကာရွှေမြို့တော်မှာ နေထိုင်တော်မူခဲ့တဲ့ {၁၃}နှစ်တာကို ကာလ{၄}ခု နဲ့ ပိုင်းခြားသတ်မှတ်ပြီး ကိုယ်တော်မြတ်{ﷺ}ရဲ့ဂုဏ္ဍဝင်မြောက် ကြိုးပမ်း ဆောင်ရွက်ချက်တွေကိုလည်း အကျဉ်းရုံးပြီး ပူးတွဲ တင်ပြအပ်ပါ တယ်။

 ❶ နဗူဝသ်ရပြီးချိန်ကနေ နဗဝီ {၃}ခုနှစ်အထိ = စုစုပေါင်း {၃}နှစ်။

မိသားစုအတွင်းကြိုးပမ်းခြင်း၊ အနီးဆုံးဆွေမျိုးမိတ်ဆွေများထဲမှာ အီမာန် ခိုင် မြဲစေဖို့ ကြိုးပမ်းနိုင်ခဲ့ပါတယ်။

 ❷ နဗဝီ {၃}ခုမှ{၅}ခုနှစ်အထိ ={၂}နှစ်

မက္ကာရွှေမြို့တော်အတွင်း ကြိုးပမ်းခဲ့ခြင်း၊ ကုန်သည်များထံ တစ်ဦးချင်းသော်လည်းကောင်း၊ အဖွဲ့လိုက်သော်လည်းကောင်း သွားရောက်ပြီး သာသနာပြုတဲ့ ကာလလို့ သတ်မှတ်နိုင်ပါတယ်။

❸ နဗဝီ ﴾၅﴿ခုမှ ﴾၁၀﴿ခုနှစ်အထိ ﴾၅﴿နှစ်။

မက္ကာမြို့ပြင်ထွက်ပြီး ကြိုးပမ်းခြင်းနဲ့ ကာဖိရ်တို့ရဲ့ ကိုယ်ထိလက်ရောက် စော်ကားခြင်းကို မေတ္တာနဲ့တုန့်ပြန်ပြီး ဒုက္ခများကို ခါးစည်းခံခဲ့တဲ့ ကာလဖြစ်ခဲ့ ပါတယ်။

❹ နဗဝီ ﴾၁၀﴿ခုမှ ﴾၁၃﴿ခုနှစ်အထိ = ﴾၃﴿နှစ်

အနယ်နယ်အရပ်ရပ်မှ ဟေဒါယသ် ဖူးစာထူးသူများ အစ္စလာမ်လက်ခံခြင်း၊ အီသီယိုးပီးယား၊ မဒီနာနဲ့ အခြားဒေသတွေဆီ ဟစ်ဂျ်ရသ် (သာသနာအတွက် အသက်အိုးအိမ်၊စည်းစိမ်)စွန့်ပစ်ကာ ရွှေ့ပြောင်းခဲ့တဲ့ ကိစ္စတွေ ဆောင်ရွက်နိုင်ခဲ့ပါတယ်။





ရဗီအွလ် အောက်ဝလ်
(၂၅)ရက်နေ့

၂၅

• နဗီ(ﷺ)ရဲ့ ဘဝမှတ်တမ်းမှ
မဒီနာသက်တမ်း

မဒီနာရွှေမြို့တော်မှာ နေထိုင်တော်မူခဲ့တဲ့ (၁၀)နှစ်တာကိုလည်း ကာလ (၄)ခုနဲ့ ပိုင်းခြားသတ်မှတ်ပြီး ကိုယ်တော်မြတ်(ﷺ)ရဲ့ ဂန္ထဝင် မြောက် ကြိုး ပမ်းဆောင်ရွက်ချက်တွေကိုလည်း အကျဉ်းရုံးပြီး ပူးတွဲတင်ပြ အပ်ပါတယ်။

❶ဟစ်ဂျ်ရီ(၁)ခု၊ ရဗီအွလ် အောက်ဝလ်(၁၂)ရက်မှ ရှအ်ဗာန်လ အထိ။ (၆)လ မဒီနာမြို့တော် ဖွံ့ဖြိုးရေးနှင့်၊ တည်ဆောက်ရေးအား အလေးပေး ဆောင်ရွက်ခဲ့ပါတယ်။

❷ဟစ်ဂျ်ရီ(၁)ခု ရမ်ဇာန်လမှ ဟစ်ဂျ်ရီ (၆)ခု ဇုလ်ကအ်ဒဟ်လထိ။ (၅နှစ်တစ်လ) အုပ်ချုပ်ရေး အစီအစဉ်၊ ပညာရေး၊ ကျန်းမာရေး၊စီးပွားရေး၊ ကာကွယ်ရေးနဲ့ ပြည်ပဆက်သွယ်ရေး ကဏ္ဍများကို အလေးထား တည် ဆောက်ခဲ့ပါတယ်။

 ❸ဟစ်ဂျ်ရီ﴾၆﴿ခု၊ မုဟာရ်ရမ်လမှ ဟစ်ဂျ်ရီ﴾၈﴿ခု၊ ရမ်ဇာန်လအထိ ﴾၁နှစ်၊၈လ﴿ ပြည်ပ ဒအ်ဝသ်ကြိုးပမ်းရေး၊ လက်တွေ့ကာကွယ်ရေး၊ မိုနာဖိက်နှင့် ယဟူဒီတို့နှင့် ရင်ဆိုင်ရသည့် ကာလဖြစ်ခဲ့ပါတယ်။

 ❹ဟစ်ဂျ်ရီ﴾၈﴿ခု ရမ်ဇာန်လမှ ဟစ်ဂျ်ရီ ﴾၁၀﴿ခု၊ ဇိလ်ဟဂျ်လ﴾၉﴿ရက်ထိ။ ﴾၂နှစ်၊၃လ﴿

အောင်နိုင်မှုများ၊ အစ္စလာမ့်စနစ်ဖြင့် အုပ်ချုပ်ရေးတည်ဆောက်နိုင်ခဲ့ပြီး၊ အရှင်မြတ်ရဲ့ ရှရီအသ်တရားတော်မြတ် ပြီးပြည့်စုံသွားသော ကာလဖြစ်ခဲ့ပါတယ်။





ရဗီအွလ် အာေခိရ်
(၂၆)ရက်နေ့

၂၆

• နဗီ(ﷺ)သင်ပြပေးခဲ့သော Respect (အပြန်အလှန်လေးစားခြင်း)အနုပညာ

 **Respect** (လေးစားခြင်း)ဆိုတာ အရှမ်းချိုမြိန်တဲ့ စာလုံးတစ်ခုဖြစ်သလို ခံစားရသူအပေါ်လည်း ပီတိဝေဖြာစေတဲ့ အင်အားကြီး စာလုံးတစ်လုံးပါ။

 နဗီတမန်တော်မြတ်(ﷺ)ရဲ့ ဘဝမှာ အများဆုံးတွေ့ခဲ့ရတဲ့ စာလုံးတွေထဲမှာ ပါဝင်ပါတယ်။

 လူသားအချင်းချင်း လေးစားဖို့ မိန့်ကြားတော်မူပါတယ်။ ယုတ်စွအဆုံး သေသူကိုတောင် လေးစားဖို့ အမိန့်ရှိပါတယ်။ နစာအီကျမ်းလာ ဆင့်ပြန်ချက်တစ်ခုမှာ **“**ယဟူဒီတစ်ယောက်ရဲ့ အသုဘ လာနေတာကို တွေ့မြင်ပြီး ကိုယ်တော်မြတ်(ﷺ)က မတ်တပ် ရပ်တော်မူခဲ့ပါတယ်။ အပါးတော်မှာရှိနေတဲ့ ဆွဟာဗာကြီးတွေက “ဒါက ယဟူဒီရဲ့ အသုဘ ဖြစ်ပါ တယ်”လို့ လျှောက်တင်တဲ့အခါ ကိုယ်တော်(ﷺ)က “သူကရော လူမဟုတ်ဘူးလား” လို့ မိန့်ကြားလိုက်ပါတယ်။**”**

 မွတ်စ်လင်မ်တွေကိုပဲ ဂုဏ်ပေးတာမဟုတ်ပါဘူး။ ဘာသာခြား ညီနောင် တွေကိုလည်း သူ့အလျှာနဲ့သူ၊ သူ့နေရာနဲ့သူ၊ သူ့အဆင့်နဲ့သူ ကိုယ်တော်မြတ်(ﷺ)က ဂုဏ်ပေးလေးစားခဲ့ပါတယ်။

 ဟစ်ဂျ်ရီ (၆)ခုနှစ်မှာ ကာဖိရ်ဘုရင်တွေဆီ သဝဏ်လွှာတွေ ပို့တော်မူခဲ့ပါတယ်။ အားလုံးသော သဝဏ်လွှာတွေရဲ့ အစမှာ......

إلى كسرى عظيم فارس.

إلى المقوقس عظيم القبط .

إلى النجاشي عظيم الحبشة

الى قيصر عظيم الروم .

ရောမရဲ့ ရေမြေသနင်းပြည့်ရှင်မင်း ကိုင်ဆွရ် ဆီသို့၊

ပါရှန်းရဲ့ ရေမြေသနင်းပြည့်ရှင်မင်း ကစ္စရာဆီသို့၊

ကိဗ်သ်ီတို့ရဲ့ အကြီးအကဲ မိုကောင်ဝ်ကိစ္စဆီသို့၊

အီသီယိုးပီးယားရဲ့ ရေမြေသနင်းပြည့်ရှင်မင်း နဂျာရှီထံသို့

**စသဖြင့် .....**

➤ တစ်ချိန်က ကိုယ်တော်နဲ့ ဆွဟာဗာတွေကို စော်ကားခဲ့သူ ယမာမာရဲ့ ဘုရင် ဆိုမာမားဟာ ဖမ်းဆီးတုတ်နှောင်ခံဘဝနဲ့ ကိုယ်တော့်ထံကို ရောက်ရှိလာတော့ ကိုယ်တော်က သူ့ကို လက်ဖျားလေးနဲ့တောင် မတို့ခဲ့ပါဘူး၊ ဆွဟာဗာတွေကို "ဆိုမာမားကို စနစ်တကျပြုစုကြပါ"လို့ မိန့်ကြားခဲ့ပါတယ်။

မက္ကာအောင်နိုင်တဲ့နေ့မှာ အဗူစွတ်ဖ်ယာန်ကို ဂုဏ်ပေးခဲ့ပုံက "သူ့အိမ်ထဲ ဝင်လိုက်တဲ့ သူဟာ လုံခြုံသွားပြီတဲ့။"

❖ တခြားဘာသာတရားတွေကို မစော်ကားဖို့ မိမိနောက်လိုက်တွေကို ကိုယ်(ﷺ)တော်က လမ်းညွှန်တော်မူပါတယ်။

❖ အဟိတ် တိရစ္ဆာန်လေးတွေ၊ သစ်ပင်ဝါးပင်လေးတွေကိုပါမချန် မစော်ကားဖို့ လမ်းညွှန်တာကတော့ ကိုယ်တော်(ﷺ)ရဲ့ အလှပဆုံး အခန်းကဏ္ဍတွေထဲကလို့ ပြောရမှာပါ။

❖ နောက်ထပ်လည်း စီရသ်ရဲ့ စာမျက်နှာတွေမှာ အစ္စလာမ့်ဘောင်အတွင်းကနေ လူသားအချင်းချင်း အပြန်အလှန်လေးစားခြင်းရဲ့ အကောင်းဆုံး နမူနာတွေကျန်ရှိနေပါသေးတယ်။ ဒီပုံရိပ်လေးတွေကို လေ့လာရင်းနဲ့ ကျန်ရှိနေတဲ့ အလှတရားတွေကို ချဲ့ထွင် စဉ်းစားကြည့်စေလိုပါတယ်။

➤ ကိုယ်တော့်ရဲ့ အွမ္မသ်ပီပီ အချင်းချင်း လေးစားတတ်ပြီလားလို့ … မေးခွန်းလေးများ မေးကြည့်ရင်းနဲ့ .....





ရဗီအွလ် အောက်ဝလ်
(၂၇)ရက်နေ့

၂၇ { • ကိုယ်တော်မြတ်(ﷺ)သင်ပေးခဲ့သော Step by Step Guide (တစ်ဆင့်ပြီး တစ်ဆင့် ဆောင်ရွက်ခြင်းအနုပညာ)

❖ **Step by Step** (တစ်ဆင့်ပြီး တစ်ဆင့် ဆောင်ရွက်ခြင်းအနုပညာ)ဟာ အောင်မြင်လိုသူတိုင်း ဆင်ယင်ချယ်သအပ်တဲ့ အလှတရား တစ်ခုပါ။

❖ ကိုယ်တော်မြတ်(ﷺ)ရဲ့ ဘဝမှာ ၊ ကိုယ်တော်ယူဆောင်လာ တဲ့သာသနာတော်၊ ကိုယ်တော် ပြဋ္ဌာန်းပေးတဲ့ အမိန့်တော်တွေမှာ ဒီအနုပညာရဲ့ အလှတရားတွေကို ကျွန်တော်တို့ လေ့လာတွေ့ရှိနိုင်ပါတယ်။

📖 ကိုယ်တော်(ﷺ)သက်တော်(၄၀)မှာ နဗီဘွဲ့ထူး ချီးမြှင့်ခြင်းခံခဲ့ရပါတယ်။

❖ ပထမဆုံးကိုယ်တော်မြတ်(ﷺ)ကြိုးပမ်းခဲ့တာကတော့ အီမာန်နဲ့ ပတ်သက်ပြီး၊ သောဝ်ဟီးဒ် (တစ်ပါးတည်းသောအရှင်ကို ခဝပ် ကိုးကွယ်ခြင်းကိစ္စ)ပဲ ဖြစ်ပါတယ်။

❖ အီမာန်ကဏ္ဍခိုင်မြဲတဲ့အချိန်မှ နမားဇ်ရဲ့ အမိန့်တော်ကို မိအ်ရားဂျ် (ကောင်းကင်ဘုံခရီးစဉ်)မှာ ပြဋ္ဌာန်းပေးခဲ့တာပါ။ အေမာမ်အိဗ်နေ့ ကဆီးရ်

﴿ﷺ﴾ရဲ့ အဆိုအရ ဟစ်ဂျ်ရည် မတိုင်မီ **(တစ်နှစ်ခွဲ)**အလိုမှာ နမားဇ်ဖရ်ဇ်ဖြစ်တယ်လို့ သိရပါတယ်။

❖နမားဇ်ရဲ့ အချစ်တရားတွေ နမားဇ်ရဲ့ အနှစ်သာရတွေ နှလုံးသားတွေ ထဲမှာ စိမ့်ဝင် ခိုင်မြဲသွားတဲ့အချိန်မှ နမားဇ်ထက်ပိုမိုပင်ပန်းတဲ့ ရိုဇာ(ဥပုသ်) ဆောက်တည်ခြင်းအမိန့်ကို ပြဋ္ဌာန်းတော်မူခဲ့ပါတယ်။ အေမာမ်နဝဝီ﴿ﷺ﴾ရဲ့ အဆိုအရ ဟစ်ဂျ်ရီ (၂)ခုနှစ်၊ ရှအ်ဗာန်လမှာ ရိုဇာစောင့်ထိန်းခြင်းဖရ်ဇ်ဖြစ်ခဲ့ပါတယ်။

❖ ရိုဇာရဲ့ အလင်းတရားများ နှလုံးသားတွင်း သက်ဆင်းပြီးတဲ့နောက်မှာ ဥစ္စာရင်းပြီး ဆောင်ရွက်ရမယ့် ဇကားသ်(ဒါနကြေး)ပေးဆောင်ခြင်း အမိန့်တော်ဟာ ဟစ်ဂျ်ရီ ﴿၂﴾ခုနှစ်၊ ရမ်ဇာန်လ ﴿၂၈﴾ရက်နေ့မှာ ကျရောက်ခဲ့ပါတယ်။

❖ ခန္ဓာကိုယ်ရော ဥစ္စာကိုပါ ရင်းပြီးပြုကျင့်ဆောင်ရွက်ရတဲ့ ဟဂျ်ရဲ့အမိန့်တော်ကတော့ ဟစ်ဂျ်ရီ (၉)ခုနှစ်မှာ ကျရောက်ခဲ့ပါတယ်။

❖ အမိန့်တော်ပြဋ္ဌာန်းရာမှ အခုလို **Step by Step** (တစ်ဆင့်ပြီးတစ်ဆင့်) ဆောင်ရွက်ခဲ့သလို တားမြစ်ချက်တွေ ထုတ်ပြန်ရာမှာလည်း ဒီသီအိုရီကို ကျင့်သုံးတော်မူခဲ့ပါတယ်။

❑ ဥပမာအနေနဲ့ အရက်သောက်ခြင်းကို ဟရာမ်အဖြစ် ပြဋ္ဌာန်းပုံ အဆင့်ဆင့်ကို လေ့လာကြည့်ကြပါစို့….။

❑ ပထမဆုံးအနေနဲ့ အရက်မှာ အဆိုးနဲ့ အကျိုး ဒွန်တွဲနေပါတယ်။ အဆိုးက ပိုများတယ်ဆိုတဲ့ မိန့်ကြားချက်နဲ့ အရက်နဲ့ပတ်သက်တဲ့ သဘောထားကို ထုတ်ပြန်ခဲ့ပါတယ်။

❑ ပြီးတဲ့အခါမှာ အရက်မူးနေရင် နမားဇ်အနားကို မကပ်ကြနဲ့ဆိုတဲ့ အမိန့်တော်ကို ပြဋ္ဌာန်းတော်မူခဲ့ပါတယ်။ အေမာမ် အိဗ်နေ့အာရှူးရ်(ﷺ)ရဲ့ အဆိုအရ ဟစ်ဂျ်ရီ (၃)ခုနှစ်၊ အုဟိုဒ် စစ်ပွဲအပြီးမှာ "အရက်ဟာ ဟရာမ်ဖြစ်ကြောင်း" အမိန့်တော် ထုတ်ပြန်တော်မူ ခဲ့ပါတယ်။

❑ ဒီလိုအမိန့်တော်တွေကို တစ်ဆင့်ပြီး တစ်ဆင့်ပြဋ္ဌာန်းတဲ့ ဥပမာတွေ ကိုယ်တော့်စီရသ်မှာ များစွာကျန်ရှိနေပါသေးတယ်။ ကိုယ်တော်မြတ်(ﷺ)ဟာ ဆွဟာဗာတွေကိုလည်း ဒီမူအတိုင်း သာသနာပြုဖို့၊ သာသနာဖြန့်ချိဖို့လမ်းညွှန်တော်မူပါတယ်။

❑ ဟစ်ဂျ်ရီ (၁၀)ခုနှစ်မှာ မုအားဇ်(رضي الله عنه)အား ယီမင်နိုင်ငံသားတွေကို သာသနာ သင်ပေးဖို့ စေလွှတ်တော်မူခဲ့ပါတယ်။

 သခင့်ကို ကိုယ်တော်(ﷺ)က အခုလို မှာတမ်းခဲ့ပါတယ်။“အို….မို အားဇ် အသင်ဟာ ကျမ်းရပုဂ္ဂိုလ်တွေဆီ သွားနေတာဖြစ်ပါတယ်။ ဒါကြောင့် သူတို့ကို ပထမဆုံး အသင့်ရဲ့ ဖိတ်ခေါ်မှုဟာ သောဝ်ဟီးဒ် (တစ်ပါး တည်းသော အရှင်ကို ခဝပ်ခြင်း)ဘက်သို့ ဖြစ်ပါစေ။ ဒီအချက်ကို သူတို့ သိရှိလက်ခံလာတဲ့ အချိန် နေ့နဲ့ညမှာ နမားဇ်(၅)ကြိမ် သူတို့ အပေါ် ပြဋ္ဌာန်းထားကြောင်း ပြောပါ လေ။ ဒီအချက်ကိုလည်း သူတို့ သိရှိလက်ခံလာတဲ့အခါ သူတို့ထဲက သူဌေးသူ ကြွယ်တွေရဲ့ အပေါ်မှာ ဇကားသ်(ဒါနကြေး) ပေးဆောင်ဖို့ တာဝန်ရှိကြောင်း ပြောကြားပါလေ။”

❑ ဒါတွေဟာ ကိုယ်တော်မြတ်(ﷺ)ရဲ့ ဘဝကနေ သင်ယူလိုက်ရတဲ့ အလှတ ရားတွေပါ။

 ကျွန်တော်တို့တွေရဲ့ ဘဝကိုလည်း ဒီလိုအလှတရားတွေနဲ့ ဆင်ယင် ချယ်သလိုက်ရင် ဘယ်လောက်များ လှပသွားလိုက်မလဲ။ အရေးကြီးတာကို ဦး စားပေးဆောင်ရွက်နိုင်ကြပါစေသား။ ကိစ္စတိုင်းကို **Step by Step** တစ်ဆင့်ပြီး တစ်ဆင့် စနစ်တကျ ဆောင်ရွက်နိုင်ကြပါစေသား….လို့ ဆန္ဒပြုရင်းဖြင့်…..





ရဗီအွလ် အောက်ဝလ်
﴿၂၈﴾ရက်နေ့

၂၈

• တမန်တော်မြတ်﴿ﷺ﴾ဘဝမှAccountabiliy, Responsibility(တာဝန်ယူမှု၊တာဝန်ခံမှု)

❖ Accountability , Responsibility (တာဝန်ယူမှု၊ တာဝန်ခံမှု)ဆိုတာဟာ လူကြီးလူကောင်းတစ်ယောက်အတွက် အသက်ထက်ဆုံး ထိန်းသိမ်းထားရမယ့်ရတနာတွေပါ။

❖တာဝန်ယူမှု၊တာဝန်ခံမှု အပြည့်ရှိသူဟာ အနီးအနားမှာရှိသူတွေကိုလည်း အေးချမ်းမှုတွေ၊ အာမခံချက်တွေပေးနိုင်ပါတယ်။ ဘဝရဲ့ ကဏ္ဍတိုင်းမှာ ယုံကြည်မှုတွေကို ရဲရဲကြီး တည်ဆောက်နိုင်ပါတယ်။



ကျွန်ုပ်တို့ ကိုယ်တော်မြတ်﴿ﷺ﴾ရဲ့ ဘဝမှာ (တာဝန်ယူမှု၊တာဝန်ခံမှု)ကို အပြည့်စုံဆုံးပုံစံနဲ့ တွေ့ရှိရပါတယ်။

➪ ပထမဆုံး ကိုယ်တော်မြတ်﴿ﷺ﴾ယူဆောင်လာတဲ့ သဝဏ်လွှာဟာ (တာဝန်ယူမှု၊ တာဝန်ခံမှုတွေအပြည့်နဲ့ပါ။) ﴿ياأيهاالناس قولوا لاإله إلا الله تفلحوا﴾

((အို…လူသားအပေါင်းတို့၊ لا إله إلا الله ) အလ္လာဟ်အရှင်မြတ်မှ တစ်ပါး အခြား ခဝပ်ကိုးကွယ်ရာမရှိ)ဆိုတဲ့ သစ္စာစကားကို ရွတ်ဆိုလိုက်ကြပါ။ အသင်တို့ နှစ်ဘဝလုံး အောင်မြင်ကြပါလိမ့်မယ်။)) တာဝန်ယူမှု တာဝန်ခံမှု အပြည့်နဲ့ မိန့်ကြားတော်မူခဲ့ပါတယ်။

“ဂျန္နသ်သော့တံဟာ နမားဇ်ဖတ်ခြင်းဖြစ်တယ်တဲ့။ “လို့ အာမခံချက်ပေး ခဲ့ပါတယ်။

“ဇကားသ်ပေးဆောင်လိုက်လို့ ပစ္စည်းဥစ္စာ လျော့မသွားစေရဘူး” လို့ ကတိ တော်မူခဲ့ပါတယ်။

“ ရိုဇာစောင့်ထိန်းခြင်းရဲ့ အကျိုးကို အရှင်မြတ်ကိုယ်တော်တိုင် ချီးမြှင့်မှာ ဖြစ်တယ်” ဆိုပြီး မိန့်ကြားတော်မူခဲ့ပါတယ်။

“မဖွယ်မရာ ကိစ္စတွေလည်း မလုပ်၊ ခိုက်ရန်ဖြစ်ပွားတာမျိုးတွေလည်း မရှိဘဲ ဟဂ်ျကျင့်စဉ်တည်ဆောက်ခဲ့တဲ့ ဟာဂျီဟာ မိခင်မွေးတဲ့နေ့ကအတိုင်း ခြောက်ပြစ်ကင်း သဲလဲစင်ဖြစ်သွားမယ်”လို့ ကတိပြုပေးခဲ့ပါတယ်။

“အသင်တို့ဘက်ကနေ (၆) ခုသော အရာကိုသာ တာဝန်ယူလိုက်ပါ၊ ငါကိုယ်တော် အသင်တို့အတွက် ဂျန္နသ်သုခဘုံကို တာဝန်ယူပေးတော်မူမယ်။

① **စကားပြောရင် မှန်မှန်ပြောပါ။**

② **ကတိတည်ပါ။**

③ **အရှက်အင်္ဂါကို ထိန်းသိမ်းပါ။**

④ **မိမိတို့လက်ကို (လုပ်ရပ်တွေကို) ထိန်းပါ။**

⑤ **မျက်လွှာတွေကို ထိန်းပါ။**

⑥ **အပ်နှံပစ္စည်းတွေကို သစ္စာရှိရှိထိန်းပါ။**

အပေးအယူ၊အရောင်းအဝယ်တွေကို မှန်မှန်ကန်ကန်သာလုပ်၊ မင်္ဂလာတိုးပွားစေဖို့ ကိုယ်တော်မြတ်(ﷺ)က တာဝန်ယူတော်မူပါတယ်။

သာသနာကိုင်းရှိုင်းတဲ့ အမျိုးသမီးကိုသာ မိမိဘဝကြင်ဖော် အဖြစ် ရွေးချယ်ခဲ့ပါ။ အိမ်ထောင်ရေးသုခရရှိဖို့ ကိုယ်တော်(ﷺ)တာဝန် ယူတော်မူပါတယ်။

လူတွေကို စလာမ်မေတ္တာပို့သနေပါ။ ဂျန္နသ်ရဖို့ ကိုယ်တော်(ﷺ)က တာဝန်ယူထားပြီးသားပါ။

ဝိုဇူရဲ့ အစိတ်အပိုင်းတွေကိုသေချာလေးသာ ဆေးကြောပါ။ ကောင်ဆရ်ရေ တိုက်ကျွေးဖို့ ကိုယ်တော်(ﷺ)က တာဝန်ယူထားပြီးသားပါ။

ကိုယ်တော်(ﷺ)ပေါ် ဒရူးဒ်မေတ္တာ အမြဲပို့သနေပါ။ ကိုယ်တော်(ﷺ)က အရှင်မြတ်ထံမှာ အသနားခံပေးဖို့ တာဝန်ယူ ထားပါတယ်။

ရှရိက်(အရှင်မြတ်(ﷺ)နဲ့ တုဖက်နိုင်းယှဉ်တာမျိုး)မပြုလုပ်ခဲ့ပါနဲ့။ ဂျန္နသ် ရဖို့ ကိုယ်တော် မြတ်(ﷺ)တာဝန်ယူပါတယ်။

အကုသိုလ် အကြီး၊အသေးတွေကနေ စစ်မှန်တဲ့ သောဝ်ဗဟ် (အမှား ဝန်ချခြင်း) ပြုခဲ့လိုက်ပါ။ ခြောက်ပြစ်ကင်း သဲလဲစင်ဖြစ်ဖို့ ကိုယ်တော်(ﷺ) တာဝန်ယူတော်မူပါတယ်။

ကျွန်တော်တို့ရဲ့ လောကီ၊ လောကုတ္တရာ ရေးရာကိစ္စအဝဝကို ကိုယ်တော်မြတ်(ﷺ)က တာဝန်ယူပေးထားပါတယ်။ ကျွန်တော်တို့ဘက်က ကိုယ်တော်မြတ်(ﷺ)ရဲ့ စွန္နသ်၊ စီရသ်နဲ့ အညီ ဘဝတည်ဆောက်ဖို့ပဲလိုအပ်တာပါ။





ရဗီအွလ် အောက်ဝလ်
﴾၂၉﴿ရက်နေ့

၂၉ • ကိုယ်တော်မြတ်﴾ﷺ﴿နှင့် Exercise ကိုယ်လက်လေ့ကျင့်ခန်း

◈ ကျန်းမာသန်စွမ်းခြင်း၊ ကိုယ်စိတ်နှစ်ဖြာကြံ့ခိုင်ခြင်းတို့ဆိုတာ အစ္စလာမ် သာသနာတော်မြတ်က ခွင့်ပြုရုံတင်သာမက တိုက်တွန်းနှိုးဆော်ထားတဲ့ ဘဝ အနှစ်သာရ တစ်ခုပါ။



စီရသ်ကျမ်းတွေကို လေ့လာကြည့်တဲ့အခါမှာ ကိုယ်တော်မြတ်﴾ﷺ﴿ ဟာလည်း အရှင်မြတ်အတွက် ကိုယ်လက်လေ့ကျင့်ခန်းကို အလွန်ပဲ အလေး ထား ဆောင်ရွက်ကြောင်း တွေ့ရှိရပါတယ်။

 ကာဇ္ဇီအေ့ယားဇ္ဇ်မ﴾ﷺ﴿က မိမိရဲ့ ﴾الشفا﴿ ကျမ်းမှာ ကိုယ်တော်မြတ် ﴾ﷺ﴿ရဲ့ ကာယအလှကို အသေးစိတ် စာဖွဲ့ထားပါတယ်။ "ကိုယ်တော်﴾ﷺ﴿ ဟာ အရပ်အမောင်းမှာရော၊ အလေးချိန်မှာရော အလွန်ပဲ သင့်တင့်တဲ့ အနေ အထားကို ပိုင်ဆိုင်ထားကြောင်း.....။ အဆီအပိုတွေလည်း ကိုယ်တော်မြတ် ﴾ﷺ﴿ခန္ဓာကိုယ်မှာ မရှိကြောင်း... စသဖြင့် ရေးသားဖော်ပြထားပါတယ်။



အလီ(ﷺ)နဲ့ အဗူဟိုရိုင်ရဟ်(ﷺ)သခင်ကြီးတို့က ကိုယ် တော်မြတ်(ﷺ)ရဲ့ လမ်းလျှောက်ပုံကို အခုလို ဆင့်ပြန်ထား ပါတယ်။ "ကိုယ်တော်(ﷺ)ဟာ လမ်းလျှောက်တော်မူတဲ့အခါ အမြင့်မှ အနိမ့်သို့ ဆင်းတော်မူသည့်အလား လျှင်မြန်စွာ လျှောက်တော်မူပါတယ်။ ခြေတော်ကို ကြွပြီး တစ်လှမ်းချင်း လှမ်းတော်မူပါတယ်။ လျှပ်တိုက်ပြီး လျှောက်ခြင်းမပြုပါ။"

 " ဟိုဒိုင်ဗီယဟ် ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုပြီး နောက်နှစ်မှာ အွမ္မရဟ် ပြုလုပ်ချိန် ကိုယ်တော်မြတ်(ﷺ)ဟာ (အိဇ္ဇ်သွေ့ဗားအ်) မိမိရဲ့ ညာဖက် လက်မောင်းတော်ကို ဖော်ပြလိုက်ရာ ကာဖိရ်များပင်လျှင် ကိုယ်တော်(ﷺ)ရဲ့ ကာယဗလကို အံ့ဩမဆုံး ဖြစ်ခဲ့ရပါတယ်။

 အစ္စလာမ့် အတွေးအခေါ် ပညာရှင်ကြီး မုဟမ္မဒ် အလ်ဂဇာလီ သခင်ကြီးက "ကိုယ်တော်မြတ်(ﷺ)မက္ကဟ်ကနေ သွာအိဖ်မြို့တော်ကို ခြေလျင်ကြွမြန်းခဲ့တဲ့ခရီး၊ ခန်ဒက်စစ်ပွဲမှာ ဆွဟာဗာအပေါင်းတို့ မထုခွဲနိုင်ခဲ့တဲ့ ကျောက်တုံးကြီးကို ကိုယ်တော်မြတ်(ﷺ)အနေနဲ့ ခွဲပြပုံတွေကို တင်ပြပြီး ကိုယ်တော်(ﷺ)ထက် ကာယဗလ စံချိန်ပြည့်မီသူ မရှိနိုင်ကြောင်း" မှတ်ချက်ပြုခဲ့ပါတယ်။



ကိုယ်တော်မြတ်(ﷺ)ဟာ မိမိကိုယ်တိုင်လည်း ကာယဗလစံချိန်တွေ ပြည့်မီသည့်တိုင် မိမိအွမ္မသ်သူ၊အွမ္မသ်သားများကိုလည်း ဒီကဏ္ဍမှာလည်း လောကလူသားတွေကို ဦးဆောင်ကြဖို့ မိန့်ကြားခဲ့ပါတယ်။



“ကာယဗလ ခွန်အားရှိသော မုအ်မင်န်ဟာ ခွန်အားဗလနည်းတဲ့မုအ်မင်န်ထက် ပိုကောင်းတယ်”လို့ မိန့်ကြားခဲ့ပါတယ်။

◈ ယုတ်စွအဆုံး မိမိတို့ရဲ့ တိရိစ္ဆာတွေကိုပါ သာသနာတော်အတွက် အသုံးပြုနိုင်ရန် ခွန်အားဗလ ပြည့်ဝနေစေဖို့ ကိုယ်တော်မြတ်(ﷺ)က ဆွဟာဗာတွေကို အမြဲ သတိပေးတော်မူပါတယ်။

 ဟဒီးဆ်တော်တစ်ပုဒ်မှာ “ပန်းတိုင်နှစ်ခုကြား အပြေးပြိုင်ခြင်း၊ မိမိရဲ့မြင်းကို အင်အားရှိလာစေရန် လေ့ကျင့်ခြင်း၊ ရေကူးသင်ယူခြင်းတို့ဟာ အပေါ်ယံအားဖြင့် အလဟဿ အချီးအနှီးလုပ်ရပ်များဖြစ်သော်လည်း ကောင်းသောလုပ်ရပ်များအဖြစ် ရေးမှတ်ခြင်းခံရမည်ဖြစ်ကြောင်း” မိန့်ကြား တော်မူပါတယ်။

◆ အချုပ်ဆိုရရင် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာလန်းဆန်းနေဖို့ ကာယလေ့ကျင့်ခန်း လုပ်ကြစို့...

**သို့ပေမယ့် ဒီကဏ္ဍမှာ ကျွန်တော်တို့ သတိထားရမယ့် အချက်တွေကတော့ ....**

❶ အရှင်မြတ်အတွက်၊ အရှင်မြတ်ရဲ့ သာသနာတော်အတွက် ၊ အရှင်မြတ်ကို ခဝပ်ကိုးကွယ်ရာမှာ အသုံးပြုဖို့ အင်အားမွေးမြူတာမျိုးဖြစ်စေရမှာပါ။

❷ အရှက်အင်္ဂါလုံခြုံစွာနဲ့ ဒီကိစ္စကို ဆောင်ရွက် အကောင်အထည်ဖော်ရမှာပါ။

❸ ဘယ်လိုကာယလေ့ကျင့်ခန်းမျိုးမဆို သာသနာ့ဘောင်အတွင်းကနေ ဖြစ်မဖြစ်၊ ကိုယ်တော်မြတ်(ﷺ)ရဲ့ စီရင်၊ ကိုယ်တော့်ရဲ့ သဘောထားတွေနဲ့ ကိုက်မကိုက်ဆိုတာမျိုးတွေကိုတော့ သတိချပ်နေရမှာပါ။

◆ ကိုယ်တော့်အွမ္မသ်သူ၊ အွမ္မသ်သားများပီပီ ကိုယ်၊ နှုတ်၊နှလုံး ဤသုံးပါးလုံး ကျန်းမာသန်စွမ်းနိုင်ကြစေဖို့ ရည်သန်ရင်းဖြင့်......





ရဗီအွလ် အောက်ဝလ်
(၃၀)ရက်နေ့

၃၀

# • ကိုယ်တော်မြတ်(ﷺ)နှင့် မျိုးဆက်သစ်ပျိုးထောင်ခြင်း

◆ ကိုယ်တော်မြတ်(ﷺ)ဟာ လောက ကမ္ဘာကို Vision (မျှော်မှန်းချက်)၊ Mission (ရည်ရွယ်ချက်)၊ Objective (ရည်မှန်းချက်) အပြည့်နဲ့ ကြွမြန်းလာခဲ့တာပါ။

◆ (၂၃)နှစ်တာ ကာလမှာ အကောင်းဆုံး လူနေမှုစနစ်တစ်ခုကို တည်ဆောက်ခြင်းနဲ့အတူ လူ့အဖွဲ့အစည်းတစ်ရပ်ကိုလည်း အကောင်းဆုံး ပြုစုပျိုးထောင်ခဲ့တာပါ။



(Orientalist = အရှေ့တိုင်းဝါဒီတစ်ဦးက "မုဟမ္မဒ်(ﷺ)မှာ ပြုစုပျိုးထောင်ထားတဲ့ တပည့်သားချင်းတွေမှအပ တခြား မုအ်ဂျေ့ဇာ (သဘာဝလွန်အစွမ်းတွေ)မရှိခဲ့လျှင်လည်း ဒီတပည့်သားချင်းတွေဟာ သူ့အတွက် လုံလောက်ပါတယ်။"လို့ မှတ်ချက်ပြုခဲ့ပါတယ်။

◆ ကိုယ်တော်(ﷺ)ပျိုးထောင်ခဲ့တဲ့ ဆွဟာဗာကြီးတွေဟာ ကိုယ်တော်မြတ်(ﷺ)ရဲ့ ရည်ရွယ်ချက်တွေ၊ ရည်မှန်းချက်တွေကို အကောင်းဆုံး ပုံဆောင်ခဲ့သူတွေပါ။

◆ ဘယ်လိုအခြေအနေမျိုးမှာမဆို၊ ဘယ်လို အင်အားကြီးတွေနဲ့ပဲ ရင်ဆိုင်ရပါစေ၊ ကိုယ်တော်မြတ်(ﷺ)ရဲ့ ရည်ရွယ်ချက်ကိုတော့ အကောင်းဆုံး အကောင်အထည်ဖော်ခဲ့ပါတယ်။

◆ မုရ်သဒ်ဖြစ်သူတွေ၊ ဇကားသ်မပေးတော့ဘူးလို့ ကြွေးကျော်နေတဲ့ သူတွေ၊ နဗီတုနောက်ကို တကောက်ကောက်လိုက်နေသူတွေနဲ့ ရင်ဆိုင်ခဲ့ချိန် “ငါ အသက်ရှိထင်ရှားရှိနေပါလျက် သာသနာတော်မှာ လိုတိုးပိုလျော့ လုပ်ခံ နေရသလား” လို့ ကြွေးကျော်ခဲ့တဲ့ အဗူဗကရ်(رضي الله عنه).........

◆ ရောမဘုရင့်နန်းတော်ထဲမှာ “ အရှင်မြတ်က ငါတို့ကို အဖန်ဆင်းခံချင်း ကိုးကွယ်နေခြင်းကနေ တစ်ပါးတည်းသော အရှင်ကို ကိုးကွယ်ဖို့၊ လောကီရဲ့ ကြပ်တည်းမှုတွေကနေ ချောင်လည်တဲ့ အရိပ်တစ်ခုဆီ လူတို့ကို ပို့ဆောင်ပေးဖို့ ၊ မျှတတဲ့ အစ္စလာမ့်အေးရိပ်ဆီ လူသားထုတစ်ရပ်လုံးကို ဖိတ်ခေါ်ဖို့ စေလွှတ်လိုက်တာဗျ” လို့ သတ္တိရှိရှိ မိန့်ကြားခဲ့တဲ့ ရိဗ်အီ(رضي الله عنه).......

◆ မက္ကာဟ်ရဲ့ ခေါင်းဆောင်တွေရဲ့ ကြားမှာ ရောက်ရှိသွားချိန် "ငါ့ကိုယ်တော်ရဲ့ စွန္နသ်ကို ဘာနဲ့မှ မလဲနိုင်ဘူး"လို့ သဘောထားထုတ်ပြန်ပေးခဲ့တဲ့ အွတ်ဆ်မားန်(ﷺ).......

◆ ကမ္ဘာ့အင်အားကြီး ရောမအင်ပါယာရဲ့ မှူးကြီး မတ်ရာတွေနဲ့ ထမင်းလက်ဆုံစားရင်း "အောက်ကျတဲ့ ထမင်းလုပ်ကို ကောက်စားခြင်းကနေ တားမြစ်ခံရတော့ " ငါ့အချစ်တော် ကိုယ်တော်မြတ်(ﷺ)ရဲ့ စွန္နသ်တော်ကို ဒီလူ့ဗာလတွေကြောင့် စွန့်လွှတ်လိုက်ရမှာလား"လို့ မေးမြန်းခဲ့တဲ့ ဟိုဇိုင်ဖဟ် (ﷺ)...

☞ ဒါကတော့ ဆွဟာဗာကြီးတွေထဲက တချို့နမူနာလေးတွေပါ၊ သာဗေ့အီတွေ ၊ သူတို့နောက် သမိုင်းတစ်လျှောက် ထွန်းတောက်ခဲ့ကြတဲ့ နဗီရဲ့ အမွေစား အမွေခံတွေ အကြောင်း မဖော်ပြရသေးပါဘူး။

♥ အကောင်းဆုံး စနစ်တစ်ခုနဲ့ အကောင်းဆုံး လူ့အဖွဲ့အစည်းကြီးကိုပြုစုပျိုးထောင်ခဲ့တဲ့ ကိုယ်တော်(ﷺ)ရဲ့အပေါ် ဒရူးဒ်မေတ္တာ ကြိမ်ဖန်များစွာပို့သအပ်ပါတယ်။



ရဗီအွလ် အောက်
ဝလ်(၃၀)ရက်နေ့
(နောက်ဆက်တွဲ
ဆောင်းပါး)



## • သဘောထားကြီးသော ကိုယ်တော်မြတ်(ﷺ)

❖ **Generous** (သဘောထားကြီးခြင်း)အတွက် အကောင်းဆုံး သင်ခန်းစာတွေ ကိုယ်တော်မြတ်(ﷺ)ရဲ့ စီရသ်မှာ တွေ့ရမှာပါ။

❖ ကိုယ်တော်မြတ်(ﷺ)ရဲ့ စီရသ်မှာ တွေ့ရှိလိုက်ရတဲ့ သဘောထားကြီးခြင်းရဲ့ ပုံရိပ်မျိုးတွေကို လူသမိုင်းက နောက်တစ်ကြိမ် ပြသနိုင်ဖို့ ခဲယဉ်းလှပါတယ်။

❖ ကိုယ်တော့်ရဲ့ သက်တော် (၂)နှစ်ဝန်းကျင်က သဘောထားကြီးခြင်းပုံရိပ်တစ်ခုပါ။ နို့တိုက်မိခင်ခြင်း ဟလီမာ(ﷺ)ရဲ့ ရင်ခွင်ထဲမှာ .... ကိုယ် တော်(ﷺ)ဟာ တခြားသော နို့စိုဖက်ညီအစ်ကို မောင်နှမတွေအတွက် ငဲ့ညှာ ထောက်ထားပြီး သဘောထားကြီးစွာနဲ့ နို့တစ်ဖက်ကိုသာ စို့လေ့ရှိပါတယ်။

❖ နဗီဖြစ်ပြီးချိန် အစ္စလာမ်ဘက်ကို ဖိတ်ခေါ်မှုတွေ စတင်ခဲ့ပါတယ်။ အဗူလဟဗ်ကစပြီး ကိုယ်တော့်ကို စော်ကားခဲ့တာမျိုးတွေရှိပါတယ်။ ကိုယ်ထိလက်ရောက်စော်ကားတာတွေလည်းပါပါတယ်။

❖ သွာအိဖ်က ခေါင်းဆောင်တွေရဲ့ လုပ်ရပ်ဟာ ကိုယ်တော့်အတွက် တတော်ပဲ စိတ်ထိခိုက်စရာပါ။ နဗဝီ (၁၀)ခုနှစ် ရှောင်ဝ်ဝလ်လမြတ်မှာ ဖြစ်ပျက်ခဲ့တာ

ပါ။နောက်ဆုံးအချိန်ထိ သွာအိဖ် ခရီးစဉ်သွားခဲ့ရတဲ့ အခိုက်အတန့် ဟာတော့ ဖြင့် အလွန်ကို နာကျင်ဖွယ်ရာဖြစ်ကြောင်း ကိုယ်တော် မိန့်ခဲ့ဖူးပါတယ်။ သူတို့ရဲ့ လုပ်ရပ်အပေါ် အရှင်မြတ်ကစိတ်ဆိုးတော်မူပြီး တောင်စောင့် ဖရိရှ်သာကို စေလွှတ်ပြီး အရေးယူဖို့ပြောကြားစေပါတယ်။ ကိုယ်တော်(ﷺ)က "သူတို့ ဒီလိုတွေ ရန်မူပေမယ့်လည်း သူတို့ ရဲ့ သားစဉ်မြေးဆက်တွေထဲမှာ အစ္စလာမ်ကို လက်ခံလာမယ့် ကလေးတွေ ရှိနိုင်ပါသေးတယ်။" ဆိုပြီး အရေးမယူဖို့ပဲ ဆုံးဖြတ်ခဲ့တာပါ။

❖ ကျူးကျော်စစ်ပွဲ ဆင်နွဲလာခဲ့တဲ့ ကိုရိုင်ရှ်မျိုးနွယ်ဝင် ကာဖိရ်တွေအတွက် စစ်ပွဲပြင်းထန်နေချိန် ကိုယ်တော်(ﷺ)ပေးခဲ့တဲ့ ဆိုဒိုအာက......

"اللهم اهد قومي فإنهم لا يعلمون"

**ဪအို ... အရှင်မြတ် ၊ ကျွန်တော်မျိုးရဲ့ မျိုးနွယ်ဝင်တွေကို တရားလမ်းမှန်ပြသ ပေးသနားတော်မူပါ။ သူတို့ခမျာ မသိရှာကြပါဘူး** ဆိုတဲ့။



ဟာစ်ဂျ်ရီ(၆)ခုနှစ် ဇုလ်ကာအ်ဒဟ်လမြတ် = ( ခရစ်နှစ်(၆၂၇ခုနှစ်၊ မတ်လ) မှာ ချုပ်ဆိုခဲ့တဲ့ ဟုဒိုင်ဗီယဟ် ငြိမ်းချမ်းရေး စာချုပ်ပါ အချက်အလက်တွေကို လေ့လာကြည့်တဲ့အခါ ကိုယ်တော်(ﷺ)ဟာ အသာအစီး ရနေပါလျက် သ

ဘောထားကြီးစွာနဲ့ပဲ လိုက်လျောပေးခဲ့တာကတော့ အင်မတန်ကို ချစ်ဖို့ကောင်းလွန်းပါတယ်။



 အခု… ဟစ်ဂျ်ရီ《၈》ခုနှစ်၊ ရမ်ဇာန်လမြတ် 《၂၀》ရက်နေ့= 《ခရစ်နှစ် ၆၃၀ခု၊ ဇန္နဝါရီလ (၁၀)ရက်နေ့》ပါ။ မက္ကာဟ်ရွှေမြို့တော်ကို အောင်နိုင်ခဲ့ပါတယ်။ အောင်နိုင်သူအဖြစ် မက္ကာဟ်ရွှေမြို့တော်ထဲကို ကိုယ်တော်မြတ် 《ﷺ》 ဝင်ရောက်ခဲ့တာပါ။ ဒါပေမယ့် ဒီနေ့မှာ ကိုယ်တော်ပြသခဲ့တဲ့ သဘောထားကြီးခြင်းရဲ့ အနှစ်သာရ တွေဟာ နှလုံးသားတွေကို အရည်ဖျော်ပစ်ခဲ့တာပါ။ တစ်ဦးတစ်ယောက်ကိုမှ သွေးတစ်ပေါက် မစွန်းစေခဲ့ပါဘူး၊ မျက်ရည်တစ်ပေါက် မထင်ကျန်စေခဲ့ပါဘူး။ ဘေးမသီ ရန်မခစေခဲ့ပါဘူး။

 **ကိုယ်တော်မြတ်《ﷺ》ရဲ့ ကြေညာချက်က …**

**"မင်းတို့အားလုံး လွတ်လပ်စွာ သွားခွင့်ရှိသွားပြီ၊ တစ်ဦးတစ်ယောက်ကိုမှ ဒို့ဘက်ကနေ ပစ်တင်ရှုံ့ချမှာ မဟုတ်ဘူးတဲ့။ ကာဖိရ် ခေါင်းဆောင်ကြီး အဗူစွတ်ဖ်ယာန်ရဲ့ အိမ်ထဲမှာ ဝင်နေသူဟာ အစစ အရာရာ လုံခြုံသွားမယ်တဲ့။"**

❖ ကိုယ်တော်ဟစ်ဂျ်ရည် မလုပ်ခင် ကအ်ဗဟ်ကျောင်းတော်ရဲ့သော့ကိုင်ရှင် ဗနူရှိုင်ဗဟ်မျိုးနွယ်ဝင် အွတ်ဆ်မာ်းနိဗင်သွလ်ဟားဆီမှာ သော့တောင်းခဲ့ဖူးပါတယ်။ သူက ငြင်းဆန်ခဲ့တာ။ မက္ကာဟ်အောင်နိုင်ချိန်မှာ ကိုယ်တော်(ﷺ)က သူ့ကို သော့ယူလာ ဖို့ မိန့်ကြားလိုက်ပါတယ်။ အားလုံးက ဒီသော့ သူ့လက်ထဲ ပြန်မရောက်လောက်တော့ဘူးလို့ ထင်နေခဲ့ပေမယ့် ကိုယ်တော်(ﷺ)က သဘောထားကြီးစွာနဲ့ သူ့ကိုပဲ ပြန် လည် ပေးအပ်ခဲ့ပါတယ်။

❖ စစ်မြေပြင်မှာ "လူကြီး၊ ကလေး ၊ အမျိုးသမီးတွေကို မသတ်ဖြတ် ရဘူး"လို့ ကိုယ်တော်မြတ်(ﷺ)မိန့်ကြားခဲ့တာပါ။

❖ ဓါးလွတ်ကို ကိုင်ပြီး ကိုယ်တော့်ကို "အခု ကျွန်တော့်ရဲ့ အန္တရာယ် ရန်စွယ် ကနေ အသင့်ကို ဘယ်သူကာကွယ်နိုင်သေးလဲ?လို့ မေးခဲ့သူဟာ ကိုယ်တော် (ﷺ)လက်ခုပ်တော်ထဲ ပြန်လည်ရောက်ရှိလာတော့ လက်ဖျားလေးနဲ့တောင် မတို့ဘဲ ပြန်လည် လွှတ်ပေးလိုက်တာပါ။

**◈ ဒီလိုသဘောထားကြီးခြင်းရဲ့ ရလဒ်ဘာတွေ ရခဲ့လဲ.....?**

**နှလုံးသားတွေကို အောင်နိုင်သွားပါတယ်။**

❖ အရင်က မုအ်ဂျေ့ဇာတွေအများကြီး ကိုယ်တော်ပြသခဲ့ဖူးပါတယ်။ အားလုံးက ဒါဟာ ပယောဂအစွမ်းတွေနဲ့ လုပ်နေတာဆိုပြီး ပြောဆိုခဲ့ပါတယ်။ သ

ဘောထားကြီးခြင်းရဲ့ မုအ်ဂျေ့ဇာ ပြသချိန်မှာတော့ အားလုံးက “ကိုယ်တော် သခင်ဟာ အလ္လာဟ်အရှင်မြတ် စေလွှတ်တော်မူတဲ့ စေတမန်တော်ဖြစ်ကြောင်း ကျွန်တော်မျိုး သက်သေခံပါတယ်” လို့ ပြောကြားတော့တာပါ။

❖ အချုပ်ပြောရရင်တော့ ကိုယ်တော်မြတ်(ﷺ)ရဲ့ သဘောထားက “သင်ကောင်းလျှင် ကျွန်ုပ်မဆိုးပါ” ဆိုတာမျိုး မဟုတ်ပါဘူး။



**(သင်မကောင်းလျှင်လည်း ကျွန်ုပ်မဆိုးပါ)**

ဆိုတဲ့ ဆောင်ပုဒ်ပါ။

 “صِلْ مَنْ قَطَعَكَ ، وَاعْفُ عَمَّنْ ظَلَمَكَ ، وَأَعْطِ مَنْ حَرَمَكَ”

အသင့်ကို အဆက်အသွယ်ဖြတ်သူကို အသင်က အဆက်အသွယ်ထားပါ။ အသင့်ကို မတရားပြုသူကို ခွင့်လွှတ်လိုက်ပါ။ အသင့်ကို မပေးတဲ့သူကို အသင်က ပေးပါ” လို့ မိန့်ကြားခဲ့တဲ့ ကိုယ်တော်ပါ။

ذلك نبينا فجئني بمثله

إذا جمعتنا يا أيها العالم الجامع

ဟော့လောကြီး .... ဒါက ငါဒို့နဗီရဲ့ သဘောထားကြီးခြင်း ပုံရိပ်တွေဗျ။ နောက်ထပ် ဒီလိုနမူနာမျိုးအသင့်မှာ ရှိခဲ့ရင် ရှာထုတ်လာခဲ့စမ်းပါလို့ ကိုယ်တော့် အွမ္မသ်သား တစ်ယောက်အနေနဲ့ စိန်ခေါ်ပါရစေ...။





လမြွတ် ရဗီအွလ်
အောက်ဝလ်လက်ဆောင်

## သင့်လက်တစ်ကမ်းရှိ ကိုယ်တော့် ဘဝမှတ်တမ်း

❖ လမြွတ် ရဗီအွလ်အောက်ဝလ်မှာ နဗီအလှတရားတွေရေးရင်း ရွှင်ပျော် နေခဲ့ရတဲ့ ကလောင်တစ်ချောင်း အခုတော့ မျက်ရည်စတွေ ဖယ်သုတ်နေရှာပြီ။ မငိုပါနဲ့.... ဆက်ရေးသွားမယ့် အကြောင်းအရာတွေဟာလည်း နဗီရဲ့ မှာတမ်းတွေ၊ နဗီရဲ့လမ်းညွှန်ချက်တွေပါပဲ ။ နဗီကို တမ်းတခြင်းတွေပါပဲ။ ဘယ်တော့မှာ ဒို့တတွေ နဗီနဲ့ မခွဲဘူး။ အချိန်တိုင်းမှာ ဒရူးဒ်ဖတ်နေကြတာ။ နမားဇ်တိုင်းမှာ ကိုယ်တော့်အပေါ် မေတ္တာပို့နေကြတာ။ နဗီရဲ့ နာမတော်ကြားတိုင်း..... ﴾صلى الله عليه وسلم﴿ ဖတ်နေကြတာပါ။ နဗီရဲ့ အချစ်တွေကွန့်မြူးနေတဲ့ ဘဝတစ်ခုကို ပိုင်ဆိုင်ထားကြတာပါ။ ဒီအချစ်တွေနဲ့ပဲ ဂျန္နသ်မှာ နဗီနဲ့ အတူနေထိုင်ကြမှာပါ။ **အင်န်ရှာအော့လ္လာဟ်...**

❖ ဒီနေ့တော့ နဗီကြီးနဲ့ ပတ်သက်ပြီး မှတ်တမ်းလေးတစ်ခုနဲ့ ရဗီအွလ်အောက်ဝလ် လမြွတ်မှာ ရေးသားခဲ့တဲ့ ပို့စ်တွေကို အဆုံးသတ်မှာပါ။ လွန်ခဲ့တဲ့ ﴾၁၀﴿ စုနှစ်တစ်ခုအရင်က ရေးသားခဲ့တာပါ။ စကားပြေရေးဟန်နဲ့ပဲ တင်ပြ

လိုက်ပါမယ်။ အခုချိန် အဆုံးထိ မဖတ်နိုင်လည်း တနေ့နေ့တော့ အသုံးဝင် မယ်လို့ မျှော်လင့်ပါတယ်။

❖ နဗီတမန်တော်မြတ်﴾ﷺ﴿သည် ဆင်နှစ် ﴾ရဗီအွလ် အောက်ဝ်ဝလ် (၉) ရက်၊ ခရစ်သက္ကရာဇ် ၅၇၁ခုနှစ် ဧပြီလ ၊ ၂၂ရက်၊ တနင်္လာနေ့ နံနက်မိုးသောက် လင်းချိန်﴿တွင် မက္ကာဟ်ရွှေမြို့တော်၌ မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။

❖ သက်တော် ﴾၅﴿ နှစ်တွင် – ဗနူစအဒ် မျိုးနွယ်သို့ နို့တိုက်မိခင် ဟဇရသ် ဟလီမာ သခင်မကြီးနှင့် အတူ လိုက်ပါသွားခဲ့သည်။ ထိုအချိန်တွင် ပထမအ ကြိမ် ရင်တော်ခွဲခံခဲ့ရသည်။

❖ သက်တော် ﴾၆﴿ နှစ် တွင်– ဖခင်ကြီး ကဗရ်ကို “ဇေယာရသ်” ပြုရန် သွား ခဲ့သည်။ ထိုခရီးတွင်ပင် မိခင်မွန်မယ်တော် အာမေ့နဟ်သခင်မကြီး ကွယ် လွန်ခဲ့သည်။

❖ သက်တော် ﴾၈﴿နှစ်တွင် – အဘိုးဖြစ်သူ အဗ်ဒွလ် မွသ်သွလီဗ် ကွယ်လွန် ခဲ့သည်။

❖ သက်တော်﴾၁၂﴿နှစ်တွင်– ဘကြီးတော် အဗူသွာလိဗ်နှင့် အတူ ဆီးရီး ယားနိုင်ငံသို့ ပထမအကြိမ် ကုန်ကူးသန်းရောင်းဝယ်ရန် ထွက်ခဲ့သည်။

❖ သက်တော် (၁၆)နှစ်တွင် –"ဖေဂျား၏" ကျူးကျော်စစ်ပွဲနှင့် "ဟစ်လ်ဖွလ်ဖိုသိုးလ်"အမည်ရှိ ပဋိညာဉ် စာချုပ်ချုပ်ဆိုရာတွင် ပါဝင်ခဲ့ပေသည်။

❖ သက်တော် (၂၅)နှစ်တွင်– ဆီးရီးယားနိုင်ငံသို့ ဒုတိယအကြိမ် ကုန်ကူးသန်းရောင်းဝယ်ရန် ကြွမြန်းခဲ့သည်။ ထို့နောက် ခဒီဂျာသခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။

❖ သက်တော် (၃၅) – ကအ်ဗဟ်ကျောင်းတော်အား ပြန်လည် မွမ်းမံခဲ့သည်။ ဟဂျ်ရေ့ အတ်စ်ဝဒ် ကျောက်နက်တော်အား မိမိ၏ရွှေလက်တော်ဖြင့် တပ်ဆင်ခဲ့သည်။

❖ သက်တော် (၄၀)တွင် – ဩဂုတ်လ ၆ရက်နေ့၊ ခရစ်သက္ကရာဇ် ၆၁၀ ခုနှစ် ရမ်ဇန်လမြတ်တွင် ကောင်းကင်တမန်တော် ဂျစ်ဗ်ရအီးလ်သခင်သည် ပထမဆုံး ဝဟီဖြစ်သည့် စူရဟ်အလတ်က်၏ အစပိုင်း (၅) အာယသ်အား ဟေရာဟ် လိုဏ်ဂူထဲသို့ယူဆောင်လာခဲ့သည်။

❖ သက်တော် (၄၆) နှစ်တွင်– အဗူဂျဟလ်က ချစ်နဗီအား အဆုံးစီရင်ရန် ကြံစည်ခဲ့သည်။

❖ သက်တော်(၄၇) နှစ်တွင်– ရှိအ်ဗေ့အဗီသွာလိဗ် (အဗူသွာလိဗ် လျှိုမြောင်တွင် ) အဆက်အသွယ်ဖြတ် ခံဘဝဖြင့် နေထိုင်ခဲ့ရသည်။

❖ သက်တော် ၍၀၏ – ရှိအ်ဖေ့အဗီသွာလစ်ဗ်၌ အဆက်အသွယ်ဖြတ်ခံ ဘ၀မှ လွတ်မြောက်ခဲ့ရသည်။ အဗူသွာလီဗ်နှင့် ခဒီဂျာသခင်မကြီးတို့လည်း ကွယ်လွန်ခဲ့သည်။ ဟဇရသ် စောင်ဝ်ဒစ်နှင့် ထိမ်းမြားခဲ့သည်။ သွာအိဖ်သို့ ကြွမြန်းခဲ့သည်။

❖ သက်တော် ၍၁၏တွင် – မဒီနာရွှေမြို့တော်မှ ဟေဒါယသ် ကံထူးရှင် (၆) ဦး အစ္စလာမ်လက်ခံခဲ့သည်၊ ဟဇရသ်အာအေရှဟ် သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။

❖ သက်တော် ၍၂၏ တွင်– ဒုတိယအကြိမ် ရင်တော် ခွဲခံရသည်။ မေ့အ်ရားဂ်ျကောင်းကင်ဘုံနန်းခရီးသို့ ကြွမြန်းတော်မူခဲ့သည်။ ဒုတိယအကြိမ် မဒီနာရွှေမြို့တော်မှ ပုဂ္ဂိုလ်အချို့အီမာန်ယူခဲ့သည်။

❖ သက်တော် ၍၃၏နှစ် ဟစ်ဂ်ျရီ(၁)ခု၊ ဆွဖရ်လ(၂၆)ရက်နေ့တွင်– မက္ကာဟ်ရှိ ကာဖိရ်အချို့က ချစ်နဗီအား အဆုံးစီရင်ရန် ကြံစည်ခဲ့ကြသည်။ ဆွဖရ် လ (၂၇)ရက် ခရစ်သက္ကရာဇ် ၆၂၂ခု၊ စက်တင်ဘာလတွင် ချစ်နဗီသည် အလွန်တွယ်တာရသည့် မွေးရပ်မြေ မက္ကာအား နှုတ်ဆက်ခဲ့ပြီး မဒီနာရွှေမြို့တော်သို့ ဟစ်ဂ်ျရသ်ပြု ပြောင်းရွှေ့တော်မူခဲ့သည်။ ရဗီအွလ်အောက်ဝလ် (၁၂)ရက်၊

ခရစ်သက္ကရာဇ် ၆၂၂ခု၊ စက်တင်ဘာလ ၂၈ ရက်၊ သောကြာနေ့တွင် ကိုယ်တော်မြတ်သည် မဒီနာရွှေမြို့တော် ရောက်ရှိတော်မူခဲ့သည်။

❖ သက်တော် ⟪၅၄⟫ ဟစ်ဂျ်ရီ (၂) ခုနှစ်တွင်– အဗ်ဝါ၊ဘိုဝါးသို့၊ ဗဒ်ရ် အူလာ၊ ဇွလ်အွတ်ဆ်ရ် ၊ ဗဒ်ရ်ကွဗ်ရာ ၊ ဘနူကိုင်နိုကားအ် ၊ စိုဝိုက်၊ ဗနူစိုလိုင်းမ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဤနှစ်တွင်လည်း ချစ်နဗီအား တတိယအကြိမ် အဆုံးစီရင်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ကြချေ။

❖ သက်တော် ⟪၅၅⟫ ဟစ်ဂျ်ရီ (၃) ခုနှစ်တွင်– ဂသ္ဗ်ဖားန်၊နဂျ်ရားန်၊ အိုဟိုဒ်၊ ဟမ်ရာအိုလ် အစဒ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဟဇရသ်ဟဖ်ဆွဟ်ဗင်န်သေ့ အိုမရ်၊ ဟဇရသ်ဇိုင်နဗ် ဗင်န်သေ့ခိုဇိုင်မဟ် တို့ဖြင့် ထိမ်းမြားခဲ့သည်။

❖ သက်တော် ⟪၅၆⟫ ဟစ်ဂျ်ရီ (၄) ခုနှစ်တွင် ရဂျီးအ်၊ ဗီးရေ့မအူနဟ်၊ ဘနူနဒွီးရ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဟဇရသ်အွမ်မေ့စလမဟ်နှင့် ထိမ်းမြားခဲ့သည်။ ဟဇရသ်ဇိုင်နဗ် ဗင်န်သေ့ခိုဇိုင်မဟ် သခင်မကြီးလည်း ကွယ်လွန်သွားခဲ့သည်။

❖ သက်တော် ⟪၅၇⟫ ဟစ်ဂျ်ရီ (၅) ခုနှစ်တွင် ဒူးမသွလ်ဂျန်ဒွလ် ၊ အဟ်ဇားဗ် (ခန်ဒတ်က်) ၊ ဗနူကိုရိုင်ဇွဟ် ၊ ဟဇရသ်အာအေ့ရှာအပေါ် (အိဖ်က်) မဟုတ် မမှန်လုပ်ကြံသမုတ်သည့် ပြဿနာ များဖြစ်ပွားခဲ့သည်။ ဟဇရသ်ဇိုင်နဗ်ဗင်န်သေ့ဂျဟ်ရှ်၊ ဟဇရသ် ဂျိုဝိုက်ရီယဟ် သခင်မကြီးတို့နှင့် ထိမ်းမြားခဲ့သည်။

❖ သက်တော် ﴾၅၈﴿ ဟစ်ဂျ်ရီ (၆) ခုနှစ်တွင်– အိုရိုင်နီယီးန်စစ်ပွဲ၊ ဟုဒိုင်ဗီယဟ် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုမှုများ ဖြစ်ခဲ့သည်။ ဟဇရသ် အွမ့်မေ့ဟဘီဘဟ် (ရမ်လဟ်) သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။

❖ သက်တော် ﴾၅၉﴿ ဟစ်ဂျ်ရီ (၇) ခုနှစ်တွင်– ကမ္ဘာအဝှမ်းရှိ ဘုရင်များထံသို့ သဝဏ်လွှာများ ပေးပို့ခဲ့သည်။ ဂါဗဟ်၊ ခိုင်ဗရ်၊ ဝါဒိလ် ကိုရာ၊ ဇားသွရ်ရေ့ ကားအ် တို့ဖြစ်ပွားခဲ့သည်။ ကိုယ်တော်မြတ်﴾ﷺ﴿အား ဆိတ်သားတွင် အဆိပ်ခတ်ကျွေးရန် ကြိုးပမ်းခဲ့သည်။ ဟဇရသ် ဆွဖီယဟ်ဗင်န်သေ့ဟုယိုင်ယ် ၊ ဟဇရသ်မိုင်မူနာတို့နှင့် ထိမ်းမြားခဲ့သည်။ (အွမ်ရသွလ်ကဿွာ) ဟစ်ဂျ်ရီ(၆) ခုနှစ်တွင် မပြုနိုင်ခဲ့သည့် အွမ်ရဟ် ပြန်လည်ပြုခဲ့သည်။

❖ သက်တော် ﴾၆၀﴿ ဟစ်ဂျ်ရီ (၈) ခုနှစ်တွင်– မောင်ဝ်သဟ်၊ ဟိုနိုင်းန်၊ သွာအိဖ် စစ်ပွဲများဖြစ်ပွားခဲ့သည်။ မက္ကာဟ်ရွှေမြို့တော်ကိုလည်း သိမ်းပိုက်အောင်နိုင်ခဲ့သည်။ ချစ်နဗီ၏ သမီးတော် ဇိုင်နဗ်သခင်မနှင့် သားတော် အိဗ်ရာဟီးမ်သခင်တို့ ကွယ်လွန်ခဲ့သည်။

❖ သက်တော် ﴾၆၁﴿ ဟစ်ဂျ်ရီ (၉) ခုနှစ်တွင်– သဗူးက် စစ်ပွဲဖြစ်ပွားခဲ့သည်။ ဇေနာကျူးလွန်ခဲ့ကြောင်း ဝန်ခံလာသည့် အမျိုးသမီးအား ခဲပေါက်ပစ်ရန် အ

မိန့်တော်ပေးခဲ့သည်။ မြောက်များစွာသော အုပ်စုများ အစ္စလာမ့်အေးရိပ်ဆာ ယာအောက်တွင် ခိုလှုံရန် ရောက်ရှိလာခဲ့သည်။

❖ သက်တော် ﴾၆၂﴿ ဟစ်ဂျ်ရီ (၁၀) ခုနှစ်တွင်– ဟဂျ်ဂျသွလ် ဝဒါအ် (နောက်ဆုံးနှုတ်ဆက်ဟဂျ်) ပြုခဲ့သည်။

❖ သက်တော် ﴾၆၃﴿ ဟစ်ဂျ်ရီ (၁၁) ခုနှစ်တွင် – ဆွဖရ်လ (၂၉) ရက်နေ့တွင် ကွယ်လွန်ရာပါရောဂါ စတင်ခဲ့သည်။ ရဗီအွလ်အောက်ဝလ် (၁၂) ရက်၊ တနင်္လာနေ့နံနက် နေတက်ချိန်တွင် ကမ္ဘာတခွင်အား တရားလမ်းမှန်၏ အလင်းတန်းများကွန့်မြူးစေသည့် တစ်ဆူတည်းသောနေမင်းကြီး ကွယ်ပျောက်သွားခဲ့သည်။ ရဗီအွလ် အောက်ဝလ် ၁၄ ရက် ဗုဒ္ဓဟူးနေ့ ညဉ့်အချိန်တွင် မိခင်မွန်ကြီးဟဇရသ် အာအေရှာ သခင်မကြီး၏ အခန်းတွင် မြုပ်နှံခံခဲ့ရသည်။



## ချစ်နဗီအား ရေချိုးပေးရန် တာဝန်ယူခဲ့သူများမှာ

**(၁)** ဟဇရသ် အလီ **(၂+၃+၄)** ဟဇရသ်အဗ္ဗားစ်နှင့် သားတော် နှစ်ပါး ဖသ္ဖ်လ်နှင့်ကိုဆမ်**(၅)** ဟဇရသ်အိုစာမဟ် **(၆)** ရှုတ်ကဲ်ရာန် **(၇)** အန်ဆွာရီဆွဟာဗာများမှ ဟဇရသ်အောင်ဝ်စ်ဗင်န်ခေါင်လီလည်း ရှိခဲ့သည်။

❖ အဖြူရောင် စဟူးလ်နယ်ထုတ် ပိတ်စ(၃) ခုနှင့် ကဖန်ထုတ်ပေးခြင်း ခံရသည်။ ဆွဟာဗာကြီးတို့သည် တစ်ဦးချင်းစီ ချစ်နဗီအတွက် ဂျနာဇာနမားဇ်

ဖတ်ခဲ့ကြသည်။ ရှုတ်က်ရားန်သခင်သည်ချစ်နဗီ၏ ကဗရ်တွင် နဗီကြီးအမြဲခြုံလေ့ရှိသော အနီရောင်ပုဝါတစ်ခုကုိခင်းကျင်း လိုက်သည်။

❖ ဟဇရည်အဗူသွလ်ဟာသည် ကိုယ်တော်မြတ်﴿ﷺ﴾အတွက် ကဗရ်တွင်းတူးခွင့်ရခဲ့သည်။

❖ ဆွဟာဗာတို့သည် ကဗရ်တော်အား အုပ်﴿၉﴾ ချပ်ဖြင့် ပိတ်လိုက်ကြသည်။

يارب صل وسلم دائما أبداً على

حبيبك خير الخلق كلهم...

اللهم ارزقنا حبك وحب نبيك وحب

عمل يقربنا إلى حبك.

